**Science And Tech International Myanmar University Co., Ltd.**
Building No.(4),MICT Park, Hlaing Township, Yangon.
Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြုပ်နှံမှုကော်မရှင်
အမှတ်( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။ STI / MIC / 2017-18 /
ရက်စွဲ ။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက် ပေးပို့ခြင်း။

၁။ Science And Tech International Myanmar University Co., Ltd.သည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အမှတ် (၆၀၅)၊ မဟာသုခိတာလမ်းမကြီး၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက် ၆ဒီ ( ၁၄၊၁၅၊၁၆ )၊ မြေကွက်အမှတ် (၃၄၄/ဘီ) ရှိမြေဧက(၀.၁၁၄)တွင် Project (1) အဖြစ်လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီး၊ ချမ်းမြသာစည်မြို့နယ်၊ မြို့သစ်(၁)ရပ်ကွက်၊ ကွင်းအမှတ် (မ-၂၃) ရှိ မြေ(၀.၁၈၃၆) ဧကပေါ်တွင် Project(2) အဖြစ်လည်းကောင်း၊ ထိုမြေနေရာများအပေါ် တွင်မြန်မာနိုင်ငံသားများမှ ရင်းနှီးမြုပ်နှံမှုပြုလုပ်လျက် အမျိုးသားပညာရေး ဥပဒေအရ ကိုယ်ပိုင် နိုင်ငံတကာ အဆင့်မှီတက္ကသိုလ် ကျောင်းထူထောင်၍ ပညာရေးဝန်ဆောင်မှု လုပ်ငန်းအဖြစ် အထက်တန်း အောင်ပြီးကျောင်းသူ၊ ကျောင်းသားများ အားနိုင်ငံတကာအဆင့်မှီ အသက်မွေးဝမ်းကြောင်း ပညာရပ်ဆိုင်ရာ ဘာသာရပ်များအတွက် အသိမှတ်ပြု လက်မှတ်များ ၊ဒီပလိုမာလက်မှတ်များနှင့် ဘွဲ့လက်မှတ်များ ရရှိနိုင်မည့် တက္ကသိုလ်ဆင့်ပညာရပ်များအပြင် ဘွဲ့လွန်ပညာရပ်များ တက်ရောက်သင်ကြားနိုင်ရန်အတွက် ပုဂ္ဂလိကပိုင် တက္ကသိုလ်ပညာရေး ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်လိုပါ၍လုပ်ကိုင်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြုပ်နှံမှု အဆိုပြုချက်တင်ပြထားသည့် ကုမ္ပဏီတစ်ခု ဖြစ်ပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားရင်းနှီးမြုပ်နှံလုပ်ကိုင်မည့်လုပ်ငန်းဖြစ်ပါသည်။

(ခ) ဤလုပ်ငန်းသည် နိုင်ငံတော်အတွက် စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင်လုပ်ဆောင်သော အခြေခံစီးပွားရေး အဆောက်အအုံကိုအထောက်အကူပြုသောလုပ်ငန်းအပြင် နိုင်ငံတော်၏ပညာရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရန် တစ်ဖက် တစ်လမ်းမှဖြည့်ဆည်းပေးမည့် ပညာရေးဝန်ဆောင်မှုလုပ်ငန်းဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) ကျွန်ုပ်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် ဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက်လိုအပ်သောစီမံချက်များချမှတ်၍လည်းကောင်း၊ မီးဘေးအန္တရာယ်နှင့်ပတ်သက်၍ ကြိုတင် ကာကွယ်မှုလုပ်ငန်းများဆောင်ရွက်သွားမည့်အပြင် သဘာဝဘေးအန္တရာယ်ကြိုတင်ကာကွယ်မှု အတွက်လည်း စီမံချက်များချမှတ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ချမှတ်ထား သောဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း/စည်းကမ်း၊ လုပ်ထုံး/လုပ်နည်းများနှင့် အညီအကောင်အထည်ဖော် ဆောင်ရွက် သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(ဃ) ကုမ္ပဏီအနေဖြင့် လုပ်ငန်းများဆောင်ရွက်ရာမှ ရရှိသောဝင်ငွေများနှင့်ပတ်သက်၍ ပေးဆောင်ရမည့် အခွန်အခများ၊ သက်ဆိုင်ရာဒေသန္တရ စည်ပင်သာယာရေးအဖွဲ့များမှ ကောက်ခံသည့် အခွန်အခများအားမပျက် မကွက်ပေးသွင်းသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(c) ထို့အပြင် ကျွန်ုပ်တို့၏ Science And Tech International Myanmar University Co., Ltd.သည် နိုင်ငံတော်အစိုးရမှပြဋ္ဌာန်းထားသောဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံး/လုပ်နည်းများ၊ အမိန့်များ၊ ညွှန်ကြားချက်များနှင့် စည်းကမ်းများအားတိကျစွာလိုက်နာဆောင်ရွက်၍မိမိတို့၏ ပညာရေးဝန်ဆောင်မှုစီးပွားရေးလုပ်ငန်းအားတိုးတက်ကြီးပွားရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်းထပ်ဆင့် ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Khin Aye Win

Managing Director

Science And Tech International Myanmar University Co., Ltd.

**Science And Tech International Myanmar University Co., Ltd.**
Building No.(4),MICT Park, Hlaing Township, Yangon.
Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။ STI / MIC / 2017-18 /
ရက်စွဲ ။

အကြောင်းအရာ။ ။အလုပ်အကိုင်သစ်များပေါ် ပေါက်လာမည့်အခြေအနေအားတင်ပြခြင်း။

၁။ Science And Tech International Myanmar University Co., Ltd. မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အမှတ် (၆၀၅)၊ မဟာသုခိတာလမ်းမကြီး၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက် ၆ဒီ ( ၁၄၊၁၅၊၁၆ )၊ မြေကွက်အမှတ် (၃၄၄/ဘီ) ရှိမြေဧက (၁.၁၁၄) တွင် Project (1) အဖြစ်လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီး၊ ချမ်းမြသာစည်မြို့နယ်၊ မြို့သစ်(၁)ရပ်ကွက်၊ ကွင်းအမှတ် (မ-၂၃) ရှိ မြေ(၁.၁၈၃၆) ဧကပေါ်တွင် Project(2) အဖြစ်လည်းကောင်း၊ ထိုမြေနေရာများ အပေါ်တွင် မြန်မာနိုင်ငံသားများမှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လျက် အမျိုးသားပညာရေးဥပဒေအရ ကိုယ်ပိုင်တက္ကသိုလ် ထူထောင်၍ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအဖြစ် အထက်တန်းအောင်ပြီး ကျောင်းသူ၊ ကျောင်းသားများအား နိုင်ငံတကာအဆင့်မှီ တက္ကသိုလ် ပညာရပ်များ၊ ဘွဲ့လွန်ပညာရပ်များ သင်ကြားတက်ရောက် နိုင်ရန်အတွက် ကိုယ်ပိုင်တက္ကသိုလ် ထူထောင်ခြင်းလုပ်ငန်းတစ်ရပ် ဆောင်ရွက်လိုပါ၍လုပ်ကိုင်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်တင်ပြထားသည့် ကုမ္ပဏီတစ်ခု ဖြစ်ပါသည်။

၂။ ကုမ္ပဏီသည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုအဖြစ် ကိုယ်ပိုင်တက္ကသိုလ်လုပ်ငန်းလုပ်ကိုင်၍ နိုင်ငံတော်အစိုးရ၏ အဓိကရည်မှန်းချက်ဖြစ်သည့် ဘက်စုံဖွံ့ဖြိုးတိုးတက်သည့် ပညာရေးကဏ္ဍဖြစ်ရန်အတွက် ပုဂ္ဂလိကကဏ္ဍမှ တစ်တပ်တစ်အား ရင်းနှီးမြှုပ်နှံ ဝန်းရံလျက် အထောက်အကူပြုသည့် ပညာရေးဝန်ဆောင်မှုလုပ်ငန်းလုပ်ကိုင်နိုင်ရန်အတွက် ပြည်တွင်းမှကျွမ်းကျင်သောစီမံခန့်ခွဲရေးဝန်ထမ်းများနှင့် ထူးချွန်ထက်မြက်သည့် ဆရာ၊ ဆရာမများ၏ အင်အားကိုအသုံးပြု၍ လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ထို့ကြောင့် လုပ်ငန်းဆောင်ရွက်ခွင့်ရရှိပါက မြန်မာနိုင်ငံသား ဝန်ထမ်းဦးရေ စုစုပေါင်း (၃၆၆) ဦးခန့် အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။

၃။ ကိုယ်ပိုင်တက္ကသိုလ်လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် မြန်မာနိုင်ငံသားဝန်ထမ်းများပိုမို၍ အလုပ်အကိုင်ရရှိကြပြီး တစ်ဖက်တစ်လမ်းမှလည်းနိုင်ငံတော်၏ ဘဏ္ဍာငွေတိုးတက်ရေးကို ဝန်ထမ်းများ၏လစာပေါ်တွင်ဝင်ငွေခွန်ထမ်းဆောင်ခြင်းဖြင့်လည်းနိုင်ငံအတွက်အခွန်ဘဏ္ဍာများတိုးတက်ရရှိနိုင်ကြောင်းလေးစားစွာဖြင့် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Khin Aye Win
Managing Director
Science And Tech International Myanmar University Co., Ltd.

**Science And Tech International Myanmar University Co., Ltd.**
Building No.(4),MICT Park, Hlaing Township, Yangon.
Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် ( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ၊ STI / MIC / 2017-18 /

ရက်စွဲ ၊

အကြောင်းအရာ ။ ။ <u>ဝန်ခံကတိပြုခြင်း။</u>

အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကိုယ်ပိုင်တက္ကသိုလ်ကျောင်းလုပ်ငန်းအား ရင်းနှီးမြှုပ်နှံ လုပ်ကိုင်ခွင့်ပြုမည်ဆိုပါက Science And Tech International Myanmar University Co., Ltd. သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ပြည်သူ့လွှတ်တော်မှ အတည်ပြုပြဋ္ဌာန်းထားသည့် ကိုယ်ပိုင်တက္ကသိုလ်ကျောင်းမှတ်ပုံတင် ဥပဒေအရလည်းကောင်း။ ဤဥပဒေအရနှင့် နိုင်ငံတကာအသိအမှတ်ပြု ဘွဲ့လွန်( Master Courses ) ၊ ဒီပလိုမာ( Diploma ) လက်မှတ်အဆင့် ( Certificate Courses ) ဘာသာရပ်များအားအရည်အသွေးမြင့်မားစွာဖြင့် လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါကြောင်း ကိုယ်ပိုင်တက္ကသိုလ်ကျောင်းမှတ်ပုံတင်ဥပဒေအား တိကျစွာလိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြု အပ်ပါသည်။

လေးစားစွာဖြင့်

Khin Aye Win
Managing Director
Science And Tech International Myanmar University Co., Ltd.

**Science And Tech International Myanmar University Co., Ltd.**
Building No.(4),MICT Park, Hlaing Township, Yangon.
Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် ( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ၊ STI / MIC / 2017-18 /
ရက်စွဲ ၊

အကြောင်းအရာ ၊ ၊ <u>လျှပ်စစ် မီးအား ရယူဆောင်ရွက်မည် ဖြစ်ပါကြောင်းဝန်ခံကတိပြုခြင်း။</u>

အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံတွင် ရင်းနှီးမြှုပ်နှံ လုပ်ကိုင်ခွင့်ပြုမည်ဆိုပါက ကျွန်တော်တို့၏ Science And Tech International Myanmar University Co., Ltd. သည် နိုင်ငံတော်မှ ဖြန့်ဖြူးသည့် လျှပ်စစ်ဓါတ်အားမရရှိသေးသောအချိန်တွင် မိမိကိုယ်ပိုင်မီးစက်ထားရှိ၍ လိုအပ်သောလျှပ်စစ်မီးအား ရယူဆောင်ရွက်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြု တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Khin Aye Win
Managing Director
Science And Tech International Myanmar University Co., Ltd.

**Science And Tech International Myanmar University Co., Ltd.**

Building No.(4),MICT Park, Hlaing Township, Yangon.

Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315


---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ်၊ STI / MIC / 2017-18 /

ရက်စွဲ ၊

အကြောင်းအရာ ။ ။ <u>နိုင်ငံတော်သို့ ကျသင့်သည့်ဝင်ငွေခွန် ပေးသွင်းမည်ဖြစ် ကြောင်းဝန်ခံကတိပြုခြင်း။</u>

အထက်အကြောင်းအရာနှင့်ပတ်သက်၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံတွင် ရင်းနှီးမြှုပ်နှံ လုပ်ကိုင်ခွင့်ပြုမည်ဆိုပါက ကျွန်တော်တို့၏ Science And Tech International Myanmar University Co., Ltd.တွင်တာဝန်ထမ်းဆောင်နေသော လုပ်ခလစာတစ်နှစ်ရငွေစုစုပေါင်းသိန်းလေးဆယ့်ရှစ်သိန်းအထက်ရှိသော ဝန်ထမ်းများ၏လစာဝင်ငွေမှ နိုင်ငံတော်သို့ ပေးဆောင်ရမည့် ကျသင့်သည့်ဝင်ငွေခွန်ကို ၎င်းတို့ရရှိသည့် လစဉ်လစာငွေမှဖြတ်တောက်၍ ပြည်တွင်းခွန်များဦးစီးဌာနသို့မပျက်မကွက် ပေးသွင်းသွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်

Khin Aye Win
Managing Director
Science And Tech International Myanmar University Co., Ltd.

**Science And Tech International Myanmar University Co., Ltd.**
Building No.(4),MICT Park, Hlaing Township, Yangon.
Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။ STI / MIC / 2017-18 /
ရက်စွဲ ။

အကြောင်းအရာ။ ။ <u>မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်။</u>

အထက်အကြောင်းအရာနှင့်ပတ်သက်၍ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရကျွန်ုပ်တို့၏ Science And Tech International Myanmar University Co., Ltd.သည်ကိုယ်ပိုင်တက္ကသိုလ်လုပ်ငန်းဆောင်ရွက်သည့် စီမံကိန်းလုပ်ငန်းခွင်ဧရိယာအတွင်းမီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှုအနေဖြင့်အောက်ဖော်ပြပါအတိုင်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

<u>မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်။</u>

( ၁ ) ရေဂါလံ(၂၅၀၀)ဆန့်ရေသိုလှောင် ကန် (၁)ကန်ကိုတည်ဆောက်ထားရှိမည်ဖြစ်ပါသည်။

( ၂ ) လုပ်ငန်းအဆောက်အအုံမှာလည်းမီးလောင်မှုမှကာကွယ်ရန်ရေပုံး၊မီးကပ်၊သဲအိတ်၊မီးသတ်ဗူးများကို သက်ဆိုင်ရာ မြို့နယ်မီးသတ်ဦးစီးဌာန၏ ညွှန်ကြားချက်အရေအတွက်များအတိုင်းအဆင်သင့် ထားရှိမည် ဖြစ်ပါသည်။

( ၃ ) မီးဘေးအန္တရာယ်ကြိုတင် ကာကွယ်နိုင်ရေးအတွက် ဝန်ထမ်းအလုပ်သမားများသည် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ခြင်း၊ မီးငြိမ်းသတ်ခြင်းတို့နှင့်ပတ်သက်၍ ဗဟုသုတရရှိရန်အလို့ငှာသက်ဆိုင်ရာ မြို့နယ် မီးသတ်ဦးစီးဌာနမှ ကျွမ်းကျင်သူများအားဖိတ်ကြား၍ သင်တန်းပို့ချမည် ဖြစ်ပါသည်။

( ၄ ) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ခြင်းအတွက်စည်းကမ်းချက်များချမှတ်ထားပြီးယင်းတို့ကို ဝန်ထမ်း များတိကျစွာလိုက်နာဆောင်ရွက်ရန်လည်းစီမံထားရှိပါမည်။

( ၅ ) ဝန်ထမ်းများကိုလည်းမီးဘေးအရေးပေါ်ကာကွယ်နိုင်ရန်အတွက်မြန်မာနိုင်ငံမီးသတ်ဦးစီးဌာနမှ အခါ အားလျော်စွာဖွင့်လှစ်သင်ကြားသည့် မီးငြိမ်းသတ်ခြင်းနှင့် မီးဘေးအန္တရာယ် ကာကွယ်ရေးသင်တန်းများသို့ တက်ရောက်ခွင့်ပြု၍လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါသည်။

( ၆ ) လုပ်ငန်းခွင်အတွင်း၊ရုံးအဆောက်အဦးအတွင်းနှင့်အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်း ကိုတင်းကျပ်စွာတားမြစ်ထားရှိမည်ဖြစ်ပြီးဆေးလိပ်သောက်သုံးရန်နေရာအားသီးခြားသတ်မှတ်ပေးမည်ဖြစ်ပါ သည်။

( ၇ ) လျှပ်စစ်နှင့်ပတ်သက်သည့်မီးဘေးအန္တရာယ်များမဖြစ်ပေါ်စေရန်အတွက်မီးကြိုးသွယ်တန်း မှုများ၊ မီးခလုတ်ခုံတပ်ဆင်မှုများ၊မီးအားမြှင့်စက်များနှင့်လျှပ်စစ်ဓာတ်အားအသုံးပြု၍လည်ပတ်ရသောလျှပ်စစ်သုံးအိမ်သုံး

ပစ္စည်းများအားအချိန်ဇယားများချမှတ်၍အမြဲမပြတ်စစ်ဆေးသွားမည့်အပြင် လျှပ်စစ် ကျွမ်းကျင်သူများ၏ စစ်ဆေးမှုကို နစ်စဉ် စီစဉ်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

( ၈ ) လုပ်ငန်းခွင်အတွင်းမီးဘေးအန္တရာယ်ကင်းရှင်းရန်နှင့် သန့်ရှင်းသပ်ရပ်စေရန်အလို့ငှာအမှိုက်များအားစနစ်တကျပုံးဖြင့်ထားရှိရန်နှင့်မီးလောင်လွယ်သည့်မြက်ပင်နှင့်ကိုင်းပင်တို့အားမကြာခဏခုတ်ထွင်ရှင်းလင်းထားမည်ဖြစ်ပါသည်။

( ၉ ) လုပ်ငန်းဆောင်ရွက်မည့်ဧရိယာအတွင်းမီးဘေးအန္တရာယ်ပေါ်ပေါက်ပါကအလွယ်တကူမီးငြိမ်းနိုင်ရန်အတွက်လူသွားလမ်းနှင့်ယာဉ်သွားလမ်းများထားရှိမည်ဖြစ်ပါသည်။

(၁၀) သက်ဆိုင်ရာမြို့နယ်မီးသတ်ဦးစီးဌာန၏ လုပ်ငန်းခွင်ဧရိယာအလိုက် ထားရှိရန်လိုအပ်သည့်ဆေးဗူးများအားရုံးခန်း၊ မီးစက်၊ ဆီသိုလှောင်သည့်နေရာများ၌စနစ်တကျသက်မှတ်အရေ အတွက်များအတိုင်းထားရှိမည်ဖြစ်ပါသည်။

<u>မီးငြိမ်းသတ်ခြင်းနှင့်ပတ်သက်၍အောက်ပါအတိုင်းစီစဉ်ဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။</u>

( ၁ ) လုပ်ငန်းရှိဝန်ထမ်းအလုပ်သမားဦးရေပေါ်မူတည်၍မီးငြိမ်းသတ်ရေးအဖွဲ့၊ ပစ္စည်းသယ်ယူရေးအဖွဲ့နှင့်ပေါင်းစပ်ညှိနှိုင်းရေးအဖွဲ့များဖွဲ့စည်း၍တာဝန်ပေးအပ်မည်ဖြစ်ပါသည်။

( ၂ ) ဖွဲ့စည်းပြီးသောအဖွဲ့များအနေဖြင့် တစ်ဖွဲ့ချင်းလုပ်ဆောင်ရမည့် အချက်အလတ်များ အားတိကျစွာထုတ်ပြန် ထားမည်ဖြစ်ပါသည်။

( ၃ ) အဖွဲ့များအနေဖြင့် ချမှတ်ထားသောမိမိတို့ဆောင်ရွက်ရမည့် အချက်များအားမီးဘေး ကိစ္စပေါ်ပေါက်ပါကလွယ်ကူလျှင်မြန်စွာဆောင်ရွက်နိုင်ရန်အတွက် မီးငြိမ်းသတ်ရေးအစမ်းလေ့ကျင့်ခြင်း အစီအစဉ်အားသက်ဆိုင်ရာမြို့နယ်မီးသတ်ဦးစီးဌာနနှင့် ပူပေါင်း၍ဆောင်ရွက်မည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

Khin Aye Win

Managing Director

Science And Tech International Myanmar University Co., Ltd.

# Science And Tech International Myanmar University Co., Ltd.

Building No.(4),MICT Park, Hlaing Township, Yangon.

Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။ STI / MIC / 2017-18 /

ရက်စွဲ ။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ရင်းနှီးမြှုပ်နှံလုပ်ကိုင်လိုသည့် ကာလ( Investment Period ) တင်ပြခြင်း။

၁။ Science And Tech International Myanmar University Co., Ltd.သည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အမှတ် (၆၀၅)၊ မဟာသုခိတာလမ်းမကြီး၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက် ၆ဒီ ( ၁၄၊၁၅၊၁၆ )၊ မြေကွက်အမှတ် (၃၄၄/ဘီ) ရှိမြေဧက(၀.၁၁၄)တွင် Project (1) အဖြစ်လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီး၊ ချမ်းမြသာစည်မြို့နယ်၊ မြို့သစ်(၁)ရပ်ကွက်၊ ကွင်းအမှတ် (မ-၂၃) ရှိ မြေ(၀.၁၈၃၆) ဧကပေါ်တွင် Project(2) အဖြစ်လည်းကောင်း၊ ထိုမြေနေရာများအပေါ်တွင် မြန်မာနိုင်ငံသားများမှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လျက် အမျိုးသားပညာရေး ဥပဒေအရ ကိုယ်ပိုင်တက္ကသိုလ်ကျောင်းထူထောင်၍ အသက်မွေး ဝမ်းကြောင်းပညာရပ်ဆိုင်ရာ ဘာသာရပ်များအတွက် အသိမှတ် ပြုလက်မှတ်များ ၊ဒီပလိုမာ လက်မှတ်များနှင့် ဘွဲ့လက်မှတ်များ ရရှိနိုင်မည့် တက္ကသိုလ်ဆင့်ပညာရပ်များအပြင် ဘွဲ့လွန်ပညာရပ်များတက်ရောက် သင်ကြားနိုင်ရန်အတွက် ပုဂ္ဂလိကပိုင်တက္ကသိုလ်ပညာရေး ဝန်ဆောင်မှု လုပ်ငန်းအားဆောင်ရွက်လိုပါ၍ လုပ်ကိုင်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်တင်ပြထားသည့် ကုမ္ပဏီတစ်ခု ဖြစ်ပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံလုပ်ကိုင်မည့် လုပ်ငန်း ဖြစ်ပါသည်။

(ခ) ဤအဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကောင်မရှင်မှ ခွင့်ပြုခဲ့ပါကစီမံကိန်းလုပ်မည့်မြေနေရာတွင် နှစ်ပေါင်း( ၅၀ ) အားနှစ်ရှည်ရင်းနှီးမြှုပ်နှံမှုကာလ ( Long Term Investment Period )အဖြစ် သတ်မှတ် ဆောင်ရွက် သွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

Khin Aye Win
Managing Director
Science And Tech International Myanmar University Co., Ltd.

**Science And Tech International Myanmar University Co., Ltd.**
Building No.(4),MICT Park, Hlaing Township, Yangon.
Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။ STI / MIC / 2017-18 /
ရက်စွဲ ။

အကြောင်းအရာ။ ။ <u>မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးစီမံချက်။</u>

အထက်အကြောင်းအရာနှင့်ပတ်သက်၍ Science And Tech International Myanmar University Co., Ltd.သည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အမှတ် (၆ပ၅)၊ မဟာသုခိတာလမ်းမကြီး၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက် ၆ဒီ ( ၁၄၊၁၅၊၁၆ )၊ မြေကွက်အမှတ် (၃၄၄/ဘီ) ရှိမြေဧက (၁.၁၁၄) တွင် Project (1) အဖြစ်လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီး၊ ချမ်းမြသာစည်မြို့နယ်၊ မြို့သစ်(၁)ရပ်ကွက်၊ ကွင်းအမှတ် (မ-၂၃) ရှိ မြေ(၁.၁၈၃၆) ဧကပေါ်တွင် Project(2)အဖြစ်လည်းကောင်း၊ ထိုမြေနေရာများအပေါ်တွင် မြန်မာနိုင်ငံသားများမှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လျက် အမျိုးသားပညာရေးဥပဒေအရ ကိုယ်ပိုင်တက္ကသိုလ် ထူထောင်၍ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအဖြစ် အထက်တန်းအောင်ပြီး ကျောင်းသူ၊ ကျောင်းသားများအား နိုင်ငံတကာအဆင့်မှီ တက္ကသိုလ်ပညာရပ်များ၊ ဘွဲ့လွန်ပညာရပ်များ သင်ကြားတက်ရောက် နိုင်ရန်အတွက် ကိုယ်ပိုင်တက္ကသိုလ် ထူထောင်ခြင်းလုပ်ငန်းတစ်ရပ် ဆောင်ရွက်လိုပါ၍ လုပ်ကိုင်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်တင်ပြထားသည့် ကုမ္ပဏီတစ်ခု ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်း၏ စီမံကိန်း ဧရိယာလုပ်ငန်းခွင်အတွင်း မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှု အနေဖြင့် အောက်ဖော်ပြပါ အတိုင်းစီမံ ချက်ချမှတ်၍ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

**ရည်ရွယ်ချက်**

ဤစီမံချက်ရေးဆွဲခြင်းဖြင့် ကြုံတွေ့ရနိုင်သည့် မီးဘေးအန္တရာယ်ကိုစနစ်တကျငြိမ်းသတ်နိုင်မည့်အပြင် ကုမ္ပဏီပိုင် ပစ္စည်းများထိခိုက်ဆုံးရှုံးမှု အနည်းဆုံးဖြစ်စေရန် ရည်ရွယ်သည့်အပြင် ပတ်ဝန်းကျင်ရှိရပ်ကွက်နေပြည်သူလူထု၏ အသက်၊ အိုးအိမ်စည်းစိမ်ဥစ္စာများဆုံးရှုံးမှုများမရှိစေရန် ရည်ရွယ်ပါသည်။

<u>မီးလောင်မှုဖြစ်ပွားရခြင်း၏ အကြောင်းအရင်းများ</u>

အောက်ဖော်ပြပါ အချက်များကြောင့် မီးလောင်ကျွမ်းမှုဖြစ်ပွားရခြင်းဖြစ်ပါသည်။

(က) မီးသုံးစွဲသူ၏ ပေါ့ဆမှုကြောင့် မီးလောင်ခြင်း။

(ခ) လျှပ်စစ်သုံးစွဲမှုပစ္စည်းများ၊ အရည်အသွေးမမှီခြင်းနှင့် လျှပ်စစ်သွယ်တန်းသည့်ကြိုးများခလုပ်များ အရည်အသွေးမမှီခြင်းနှင့် တပ်ဆင်မှုစနစ်မကျခြင်းတို့ကြောင့် မီးလောင်ခြင်း။

(ဂ) မသမာသူများ၏ ရှို့မီးဖြင့် မီးလောင်ခြင်း။

(ဃ) အခြားမီးလောင်ကျွမ်းသည့် အရပ်မှမီးကူးစက်လောင်ကျွမ်းခြင်း။

(င) ပေါက်ကွဲစေတတ်သည့် ပစ္စည်းများကြောင့် မီးလောင်ကျွမ်းခြင်း။

**ဆောင်ရွက်ရန် နည်းလမ်းများ**

မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်တားဆီးရေးကိုအောက်ပါအချက်များဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး ထိုသို့ဆောင်ရွက်ခြင်းဖြင့် မီးလောင်မှုဖြစ်ပွားစေသောအကြောင်းများကိုလည်းတားဆီးနိုင်မည်ဖြစ်သည်။

(က) သက်ဆိုင်ရာမြို့နယ်မီးသတ်ဦးစီးဌာန၏ ကြီးကြပ်မှုဖြင့် ပညာပေးဟောပြောပွဲများပြုလုပ်ခြင်း၊ သင်တန်း ပေးခြင်းများစနစ်တကျပြုလုပ်ထားရန်။

(ခ) မီးဘေးအန္တရယ် ကြိုတင်ကာကွယ်ရေးနှင့် မီးငြိမ်းသတ်ရေးအဖွဲ့ များဖွဲ့စည်းထားရန်။
(ဂ) သင့်လျော်သည့် ဝန်ထမ်းများအား မီးသတ်ဆေးဗူး၊ မီးသတ်ရေပုံး၊ မီးသတ်သဲပုံး၊မီးကပ်ကိုလက်တွေ့ သင်တန်းပေးပြသထားရန်။ (၃) လတစ်ခါ မှမ်းမံသင်တန်းပေးရန်။
(ဃ) မီးဖို၊ ဆေးလိပ်တိုကိုမှ မီးကြွင်းမီးကျန်တို့ကို ငြိမ်းသတ်ပြီးမှ စနစ်တကျစွန့်ပစ်ရန်။
(င) "မီးသတိပြု" "ဆေးလိပ်မသောက်ရ" "သင့်ကြောင့်မီးမလောင်ပါစေနှင့်"စသည့်မီးဘေးအန္တရယ်ကြိုတင်ကာကွယ်ရေးဆိုင်းဘုတ်၊နံရံကပ်ပိုစတာများကိုလိုအပ်သည့်နေရာများတွင် မြင်သာသလိုချိတ်ကပ်ထား ရန်။
(စ) ဆေးလိပ်သောက်ရန် နေရာသီးသန့်သတ်မှတ်ထားပြီးထိုနေရာအနီးတွင် မီးလောင်လွယ်သည့် ပစ္စည်းများမထားရန်။
(ဆ) မီးသတ်ဆေးဗူးများကောင်း/မကောင်းကိုအနည်းဆုံးတစ်လလျှင်တစ်ကြိမ် စစ်ဆေးပြီးမှတ်တမ်းတင်ရန်၊ မီးသတ်ဆေးဗူးများအသုံးပြုနည်းကိုမြန်မာဘာသာဖြင့် မီးသတ်ဗူးများအနီးတွင် ချိတ်ဆွဲထားရန်၊ မီးသတ်ဆေးဗူးများရှိသည့် နေရာများကို မြှားအညွှန်းပြသထားရန်။
(ဇ) လျှပ်စစ်ပစ္စည်းများနှင့် မီးကြိုးများကိုစနစ်တကျအသုံးပြုရန် မီးကြိုးများပေါက်ပြဲမှုရှိ၊မရှိ တာဝန်ရှိသူများမှ နေ့စဉ်စစ်ဆေးရန်။
(ဈ) မီးဘေးအန္တရယ်ကြုံတွေ့သည့်အခါ အလွယ်တကူပိတ်နိုင်ရန် လျှပ်စစ် Main Switch နှင့် Fuse များရှေ့တွင် ပိတ်ဆို့နေသည့် ပစ္စည်းများဖယ်ရှားထားရန်၊
(ည) မီးခလုပ်များ၊ မီးကြိုးများအနီးတွင် ပိုးမျှင်၊ ပင့်ကူမျှင် စသည့်တို့အပါအဝင် မီးလောင်နိုင်သည့် ပစ္စည်းများကိုရှင်းလင်းထားရန်၊ မလုမ်းမကမ်းတွင် လျှပ်စစ်နှင့် ဒီဇယ်များကို ငြိမ်းသတ်နိုင်သည့် မီးသတ်ဆေးဗူးများထားရှိရန်။
(ဋ) အလုပ်ပြီးသည့်အခါ မီးခလုတ်များကိုပိတ်ထားခဲ့ရန်။
(ဌ)မီးဘေးအန္တရာယ်အတွက် ဆက်သွယ်မှုပြုနိုင်ရန် အောက်ပါဖုန်းနံပါတ်များကိုများမြင်သာသည့်နေရာတွင် ထင်ရှားစွာရေးသားချိတ်ဆွဲထားရန်၊
(၁) မီးသတ်ဦးစီးဌာန (မြို့နယ်/တိုင်း)
(၂) ဆေးရုံနှင့် ဒေသန္တရဆေးပေးခန်း
(၃) မြို့နယ်၊ တိုင်းပြည်သူ့ရဲတပ်ဖွဲ့
(ဍ) အောက်ပါ မီးသတ်ပစ္စည်းများကို မြင်သာသည့်နေရာ၊ ယူရန်လွယ်ကူသည့်နေရာတွင်ထားရှိရန်၊

| | |
|---|---|
| (၁) မီးသတ်ဗူး | (၅ဝ)လုံး |
| (၂) သဲပုံး | (၁ဝဝ)လုံး |
| (၃) မီးသတ်ရေဆွဲပုံး | (၃ဝ)လုံး |
| (၄) မီးကပ် | (၂ဝ)ခု |
| (၅)မီးချိတ် | (၂ဝ)ခု |
| (၆) ညအချိန်အသုံးပြုရန်လက်နှိပ်ဓာတ်မီး(၁ဝ)ခု | |
| (၇) ပေါက်ဆိန် | (၅) ခု |
| (၈) မီးသတ်ပိုက်ခေါင်းနှင့် မီးသတ်ပိုက် | (၂) စုံ |

မီးဘေးအန္တရာယ်သည် ရုံးချိန်အတွင်းဖြစ်ပေါ်ပါကမန်နေဂျာ ၊ လုံခြုံရေးမှူး၊ စီမံရေးရုံးသို့ သတင်းပို့ရန်၊ စီမံ လ/ထ မန်နေဂျာ၊ စီမံရေးရုံးမှလည်းနီးစပ်ရာမီးသတ်စခန်းများ၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်းများအားအလျင်မြန် အကြောင်းကြားရန်။

မီးဘေးအန္တရာယ်သည်ရုံးပြင်ပတွင်ဖြစ်ပေါ်ပါကမီးလန့်သံချောင်းခေါက်ပြီးမန်နေဂျာ၊ စီမံ လ/ထ မန်နေဂျာ၊တာဝန်မှူး၊ လုံခြုံရေးမှူးတို့ကိုသတင်းပို့အကြောင်းကြားရန်၊ အဆောင်နေဝန်ထမ်းများက နီးစပ်ရာမီးသတ်စခန်းများနှင့် အုပ်ချုပ်ရေးမှူးဒါရိုက်တာအားအကြောင်းကြားရန်၊ လောလောဆယ်ကျရောက်နေသည့် မီးဘေးအန္တရာယ်အား တာဝန်ကျလုံခြုံရေးများ၊ အဆောင်နေဝန်ထမ်းများက ဟန့်တားကာကွယ်ထားရန်။

အဖွဲ့များဖွဲ့စည်းခြင်း

မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအတွက် အုပ်ချုပ်မှုဒါရိုက်တာ၊ အထွေထွေမန်နေဂျာတို့၏ လမ်းညွှန်မှုဖြင့် စီမံမန်နေဂျာမှ ရုံးချုပ်အတွက် ကြီးကြပ်မီးငြိမ်းသတ်ရေးအဖွဲ့၊ လုံခြုံရေးအဖွဲ့၊ ကယ်ဆယ်ရေးနှင့် ပစ္စည်းသယ်ယူရွှေ့ပြောင်းရေးအဖွဲ့တို့ကိုပူးတွဲအမည်စာရင်းအတိုင်းဖွဲ့စည်းထားရှိရန်။

မီးငြိမ်းသတ်ရေးအဖွဲ့၏ တာဝန်ဝတ္တရားများ

(က) မီးသတ်ဗူး၊ မီးကပ်၊ မီးချိတ်၊ သဲပုံး၊ လျှပ်စစ်မီးခလုတ်၊ ပင်မမီးခလုတ်ရှိသည့်နေရာများကိုသိရှိအောင် ကြိုတင်လေ့လာထားရမည်။
(ခ) မီးသတ်ဗူး၊ မီးကပ်၊ မီးချိတ်၊ သဲပုံးတို့ကိုလိုအပ်လျှင်အသုံးပြုတတ်အောင် လေ့ကျင့်ထားရမည်။
(ဂ) မီးလောင်သည့်နေရာနှင့် အနီးစပ်ဆုံးတွင်ရှိသည့် မီးငြိမ်းသတ်ရေးအဖွဲ့ဝင်များက မီးတောက်ကြီး မလာမီအမြန်ဆုံးတက်ညီလက်ညီစနစ်တကျ မီးငြိမ်းသတ်ရမည်။ကျန် မီးငြိမ်းသတ်ရေးအဖွဲ့ဝင်များ က အခြားနေရာများရှိ မီးသတ်ဆေးဗူးများ၊ မီးချိတ်၊ သဲပုံးများသယ်ယူလာပြီးမီးငြိမ်းသတ်ရမည်
(ဃ) မီးဘေးအန္တရာယ်ကျရောက်လာပါက လျှပ်စစ် (FUSE) ပင်မခလုတ်များကိုချက်ချင်းပိတ်ရမည်။

လုံခြုံရေးအဖွဲ့၏ တာဝန်ဝတ္တရားများ

(က) မီးဘေးအန္တရာယ် ကျရောက်နေလျှင် ဝန်ထမ်းများဘေးအန္တရာယ်ကင်းရှင်းရေး၊ လုပ်ငန်းပိုင်ပစ္စည်းများ လုံခြုံမှုရရှိရေးတို့ကိုဆောင်ရွက်ရန်။
(ခ) မီးဘေးအန္တရာယ်ကျရောက်နေချိန်တွင် ကုမ္ပဏီပိုင်ငွေများ၊ ကုမ္ပဏီပိုင်အဖိုးတန်ပစ္စည်းများ၊ အခြား ကုမ္ပဏီပိုင်စာရွက်စာတမ်းပစ္စည်းများကိုဦးစားပေးအဆင့်အလိုက် မီးလောင်ကျွမ်းမှုမရှိစေရန်တစ်နေ ရာသို့ရွှေ့ပြောင်းပြီးပါက လုံခြုံရေးအဖွဲ့ဝင်များက လုံခြုံမှုကိုတာဝန်ယူရန်။
(ဂ) မီးဘေးအန္တရာယ်ကျရောက်နေချိန်တွင် လုံခြုံရေးအဖွဲ့ဝင်များကရောက်ရှိလာသည့်အခါ ပူးပေါင်းအကူ အညီပေးရန်။
(ဃ) မီးဘေးအန္တရာယ်ကျရောက်နေချိန်တွင် ကုမ္ပဏီရုံးခန်းအတွင်းသို့ တာဝန်ရှိသူများ၊ တပ်ဖွဲ့ဝင်များကို သာ ဝင်ခွင့်ပြုရန်၊ အခြားမည်သူကိုမျှဝင်ခွင့်မပြုရန်၊ မလိုလျှင်တံခါးမကြီးအားသော့ခတ်လိုက်ရန်။
(င) မီးဘေးအန္တရာယ်ကျော်လွန်ပြီးနောက် ကုမ္ပဏီပိုင်ငွေများ၊ ကုမ္ပဏီပိုင်အဖိုးတန်ပစ္စည်းများ၊ အခြား ကုမ္ပဏီပိုင်စာရွက်စာတမ်းပစ္စည်းများကိုသက်ဆိုင်သူများထံစနစ်တကျပြန်လည်အပ်နှံရမည်။

ကယ်ဆယ်ရေးနှင့်ပစ္စည်းသယ်ယူရွှေ့ပြောင်းရေးအဖွဲ့

(က) ကုမ္ပဏီပိုင်ငွေများ၊ ကုမ္ပဏီပိုင်အဖိုးတန်ပစ္စည်းများ၊ အခြားကုမ္ပဏီပိုင်စာရွက်စာတမ်းပစ္စည်းများကို ဦးစားပေးအဆင့်အလိုက် မီးဘေးအန္တရာယ်ကင်းရှင်းပြီးလုံခြုံမှုရှိသည့်နေရာသို့ အလျင်အမြန်ရွှေ့ ပြောင်းပေးရန်။ လိုအပ်ပါကဒေသရှိ မော်တော်ယာဉ်များကိုတာဝန်ရှိသူထံ တောင်းဆိုလျက်ပစ္စည်းများ ရွှေ့ပြောင်းရမည်၊
(ခ) သယ်ယူပြောင်းရွှေ့လာသောငွေကြေးပစ္စည်းများကို လုံခြုံရေးအဖွဲ့ဝင်များနှင့်ညှိနှိုင်းပြီးလုံခြုံသည့်နေရာ အားသတ်မှတ်ရန်၊
(ဂ) မီးဘေးအန္တရာယ်လွတ်ကင်းရာသို့ သယ်ယူရွှေ့ပြောင်းရာတွင်ငွေကြေးပစ္စည်းများကိုဆုံးရှုံးပျက်စီးမှုမရှိ အောင် အလေအလွင့်မရှိအောင် အထူးဂရုစိုက်ရမည်။
(ဃ) မီးဘေးအန္တရာယ်ကျရောက်နေစဉ်အတွင်းဒဏ်ရာအနာတရဖြစ်သူများအားလိုအပ်သည့်နေရာသို့ ပို့ဆောင်ရွှေ့ပြောင်းပေးရန်။ ကုမ္ပဏီပိုင်မော်တော်ယာဉ် ယာဉ်မောင်းများနှင့်ညှိနှိုင်းဆောင်ရွက်ရန်။
(င) ဝန်ထမ်းများဒဏ်ရာအနာတရမဖြစ်စေရန်နှင့် ဒဏ်ရာရရှိပါကကုသမှုပြုနိုင်ရန် ဆေးရုံဆရာဝန်၊သူနာပြု တို့နှင့်ညှိနှိုင်းဆောင်ရွက်ရန်။
(စ) မီးဘေးအန္တရာယ်ကျရောက်နေချိန်တွင် ကျန်းမာရေးမကောင်းသူ၊ မသန်စွမ်းသူများအားမီးဘေးအန္တရာယ် မှလွတ်မြောက်စေရန် ကူညီဆောင်ရွက်ပေးရန်။

**စီမံခန့်ခွဲမှု**

မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးနှင့် မီးဘေးအန္တရာယ်ကျရောက်နေစဉ် မီးငြိမ်းသတ်ရေးအဖွဲ့၊ လုံခြုံရေးအဖွဲ့၊ကယ်ဆယ်ရေးနှင့် ပစ္စည်းသယ်ယူရွှေ့ပြောင်းရေးအဖွဲ့များသည် လုပ်ငန်းရုံးချုပ်၏အုပ်ချုပ်မှု ဒါရိုက်တာ၊ အထွေထွေမန်နေဂျာ၊ စီမံမန်နေဂျာ၊ ဌာနကြီးမှူးများ၊လုံခြုံရေးမှူး၊စီမံရေးလက်ထောက်များ၏ စီမံခန့်ခွဲမှု အတိုင်းဆောင်ရွက်ရန်နှင့် ဒေသဆိုင်ရာမြို့နယ်/တိုင်းမီးသတ်ဦးစီးဌာနတို့၏ အရေးပေါ် စီမံကွပ်ကဲမှုကိုလည်းပူးပေါင်း၍ လိုက်နာဆောင်ရွက်ရန်။

**နိဂုံး**

မီးဘေးအန္တရာယ်ကြောင့်ကြုံတွေ့ရမည့် ငွေကြေး၊ အိုးအိမ်၊ စည်းစိမ်၊ ဥစ္စာပစ္စည်းများနှင့်လူ့အသက်များ ပျက်စီးဆုံးရှုံးမှုများမှ ဤမီးဘေးအန္တရာယ်တားဆီးကာကွယ်ရေးစီမံချက်ကြောင့် ထိခိုက်မှုအနည်းဆုံး၊ ပျက်စီးဆုံးရှုံးမှုအနည်းဆုံးရရှိခံစားနိုင်မည်ဖြစ်ပါသည်။

အတည်ပြုမှတ်တမ်းတင်သူ

Managing Director/CEO

Science And Tech International Myanmar University Co., Ltd.

**Science And Tech International Myanmar University Co., Ltd.**

Building No.(4),MICT Park, Hlaing Township, Yangon.

Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။ STI / MIC / 2017-18 /
ရက်စွဲ ။

အကြောင်းအရာ။ ။ လူမှု့စီးပွားဖွံ့ဖြိုးတိုးတက်စေရန်လူမှုရေးတာဝန်ယူမှုပေါင်းဆောင်ရွက်မှု(CSR) အတွက်ကတိခံဝန်ချက်တင်ပြခြင်းကိစ္စ။

အထက်အကြောင်းအရာပါကိစ္စရပ်နှင့်ပတ်သက်၍ Science And Tech International Myanmar University Co., Ltd.သည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အမှတ် (၆၀၅)၊မဟာသုခိတာလမ်းမကြီး၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက် ၆ဒီ ( ၁၄၊၁၅၊၁၆ )၊ မြေကွက်အမှတ် (၃၄၄/ဘီ) ရှိမြေဧက(၀.၁၁၄)တွင် Project (1) အဖြစ်လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီး၊ ချမ်းမြသာစည်မြို့နယ်၊ မြို့သစ်(၁)ရပ်ကွက်၊ ကွင်းအမှတ် (မ-၂၃) ရှိ မြေ(၀.၁၈၃၆) ဧကပေါ်တွင် Project(2) အဖြစ်လည်းကောင်း၊ ထိုမြေနေရာများ အပေါ်တွင် မြန်မာနိုင်ငံသားများမှ ရင်းနှီးမြှုပ်နှံမှု့ပြုလုပ်လျက် အမျိုးသားပညာရေး ဥပဒေအရ ပညာရေး ဝန်ဆောင်မှု လုပ်ငန်းအဖြစ် အထက်တန်းအောင်ပြီးကျောင်းသူ၊ ကျောင်းသားများအား နိုင်ငံတကာ အဆင့်မှီ အသက် မွေးဝမ်းကြောင်းပညာရပ်ဆိုင်ရာ ဘာသာရပ်များ အတွက် အသိမှတ်ပြုလက်မှတ်များ၊ ဒီပလိုမာ လက်မှတ် များနှင့် ဘွဲ့လက်မှတ်များ ရရှိနိုင်မည့် တက္ကသိုလ်ဆင့် ပညာရပ်များအပြင် ဘွဲ့လွန်ပညာရပ်များ တက်ရောက်သင်ကြားနိုင်ရန်အတွက် ပုဂ္ဂလိက ပိုင်တက္ကသိုလ် ပညာရေးဝန်ဆောင်မှုလုပ်ငန်းအားဆောင်ရွက်လိုပါ၍ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု့ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု့ အဆိုပြု ချက်တင်ပြထားသည့် ကုမ္ပဏီတစ်ခု ဖြစ်ပါသည်။

မိမိတို့ကုမ္ပဏီအနေဖြင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု့ကော်မရှင်မှအဆိုပြုလုပ်ငန်းအားလုပ်ကိုင်ဆောင်ရွက်ရန်ခွင့်ပြုခဲ့မည်ဆိုပါကလုပ်ငန်း၏အမြတ်ကမောင်းနှင်အားဖြစ်သည့်ကုမ္ပဏီ၏ရုံးဝန်ထမ်းများ၊စာသင်ကျောင်းရှိစာပေသင်ကြားပေးသောဆရာ၊ ဆရာမများ၊ကျောင်းသား၊ ကျောင်းသူများနှင့်အလုပ်သမားများ အပါအဝင် လုပ်ငန်း လုပ်ကိုင်ရာဒေသနှင့်ပတ်ဝန်းကျင်ရှိလူပုဂ္ဂိုလ်များအားလုံးတို့၏အထွေထွေလူမှု့စီးပွားဖွံ့ဖြိုးတိုးတက်စေရန်အတွက်"လူမှု့ရေးတာဝန်ယူမှုပေါင်းဆောင်ရွက်မှု"(Corporate Social Responsibility) ကျင့်စဉ်များနှင့်အညီဆောင်ရွက်နိုင်ရန်ကုမ္ပဏီ၏နှစ်စဉ်ရရှိသောအမြတ်ငွေမှ (၂%)အားကုမ္ပဏီ၏စာရင်းတွင်"လူမှု့ရေးတာဝန်ယူမှုပေါင်းဆောင်ရွက်မှု့ရန်ပုံငွေ"(CSRFund)အဖြစ်စာရင်းတစ်ခုထူထောင်ထားရှိသွားမည်ဖြစ်ပါသည်။"လူမှု့ရေးတာဝန်ယူမှုပေါင်းဆောင်ရွက်မှု့ရန်ပုံငွေ"မှအောက်ဖော်ပြပါလုပ်ငန်းများ အတွက် အကျိုးရှိစွာဆောင်၍ရွက်ပေးမည်ဖြစ်ပါသည်။

( ၁ ) ဒေသရှိကျောင်းသားလူငယ်များအတွက် ပညာရေးကူညီထောက်ပံခြင်းအတွက် ၂၀ %
( ၂ ) ဒေသရှိပြည်သူများကျန်းမာရေးစောင့်ရှောက်မှုလုပ်ငန်းအတွက် ၂၀ %
( ၃ ) ဒေသ၏လမ်းပန်းဆက်သွယ်ရေးနှင့် စည်ပင်တိုးတက်ရေးအတွက် ၂၀ %
( ၄ ) ဝန်ထမ်းများစွမ်းဆောင်ရည်မြင့်မားရန်အတွက် သင်တန်းများစီစည်ပေးခြင်းအတွက် ၂၀ %
( ၅ ) အခြားလုပ်ငန်းများအတွက်အမြဲတမ်းထားရှိမည့်စုဆောင်းရန်ပုံငွေအတွက် ၂၀ %

Science And Tech International Myanmar University Co., Ltd.အနေဖြင့် နိုင်ငံတော်၏ပညာရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ရန်၏တစ်ဖက်တစ်လမ်း မှ ကိုယ်ပိုင်တက္ကသိုလ်ထူထောင်ခြင်းဖြင့် ပံ့ပိုးနေသကဲ့သို့ ကိုယ်ပိုင်တက္ကသိုလ်လုပ်ငန်းဆောင်ရွက်နေစဉ် လူမှုရေးတာဝန်ယူအကောင်အထည်ဖော်မှု (CSRActiivities) အားအောက်ပါအတိုင်းစီမံဆောင်ရွက်သွားမည်ဖြစ်ပါသည်။

ကိုယ်ပိုင်တက္ကသိုလ်အတွင်း (CSR) ဆောင်ရွက်ချက်

(၁) ကိုယ်ပိုင်တက္ကသိုလ်ဝင်း အဝင်ယာဉ်ရပ်နားရာနေရာ၊ စက်ဘီးဆိုင်ကယ်များရပ်နားရန်နေရာများ သတ်မှတ်ထားရှိမည်ဖြစ်ပါသည်။

(၂) ကိုယ်ပိုင်တက္ကသိုလ်တွင်ရှိသည့် ကုမ္ပဏီ၏ရုံးဝန်ထမ်းများတက္ကသိုလ်ရှိစာပေသင်ကြားပေးသောဆရာ၊ ဆရာမများ၊ကျောင်းသား၊ ကျောင်းသူများနှင့် အလုပ်သမားများအတွက်သောက်သုံးရန်ရေနှင့် ပတ်သက်၍ ခေတ်မီရေသန့်စက်တပ်ဆင်ပြီးသန့်ရှင်းသောကျန်းမာရေးနှင့်ညီညွတ်သည့်အဆင့်မီသောက်ရေသန့်အားသော က်သုံးနိုင်ရန် စီစဉ်ဆောင်ရွက်မည်ဖြစ်ပါသည်။

(၃)ကိုယ်ပိုင်တက္ကသိုလ်တွင်ရှိသည့်ကုမ္ပဏီ၏ရုံးဝန်ထမ်းများ၊စာသင်ကျောင်းရှိစာပေသင်ကြားပေးသောဆရာ ၊ ဆရာမများ၊ ကျောင်းသား၊ ကျောင်းသူများနှင့် အလုပ်သမားများကျန်းမာရေးနှင့်ပတ်သက်၍ ရုတ်တရက်နာမကျန်းဖြစ်ပေါ်လာပါကရှေးဦးသူနာပြုနည်းစနစ်များနှင့် ပြုစုကုသနိုင်ရန်ရှေးဦးသူနာပြုအခန်းတစ်ခန်း (First Aid Room) အားထားရှိသွားမည်ဖြစ်ပါသည်။

(၄)ကိုယ်ပိုင်တက္ကသိုလ်တွင်တက်ရောက်နေသည့် ဆရာ၊ ဆရာမများနှင့် ကျောင်းသား၊ ကျောင်းသူများ ကျန်းမာရေးထိန်းသိမ်းရန် အားကစားလှုပ်ရှားမှုပြုလုပ်နိုင်ရန်အတွက်အားကစားကွင်း တစ်ခုထား ရှိမည် ဖြစ်ပါသည်။

(၅) ကိုယ်ပိုင်တက္ကသိုလ်တွင်ရှိသည့် ကျောင်းသား၊ ကျောင်းသူလူဦးရေအချိုး အစားနှင့်ညီမျှ သောသန့် စင်ခန်း (အိမ်သာ) အရေအတွက်အားကျောင်းကျန်းမာရေးစစ်ဆေးမှုကော်မတီ၏ အကြံပြုချက်နှင့် အညီထားရှိဆောင်ရွက်မည်ဖြစ်ပါသည်။

(၆) ကိုယ်ပိုင်တက္ကသိုလ်ရှိသန့်စင်ခန်း (အိမ်သာ) များတွင် လက်ဆေးကန် (Basins) များအားလုံလောက်စွာထားရှိမည့်အပြင် လက်ဆေးရန်ဆပ်ပြာရည်အားအသင့်သုံးခွက်အတွင်းထည့်သွင်းထားရှိမည်ဖြစ်ပါသည်။

(၇)ကိုယ်ပိုင်တက္ကသိုလ်တွင် ကျောင်းဝန်းအတွင်းနှင့်ပတ်ဝန်းကျင်သန့်ရှင်းရန်အတွက် သန့်ရှင်းရေး ဝန်ထမ်းများအားလုံလောက်စွာခန့်အပ်၍သန့်ရှင်းသပ်ရပ်သော၊ ကျန်းမာရေးနှင့်ညီညွတ်သော နိုင်ငံတကာ အဆင့်မီ တက္ကသိုလ်ဖြစ်ရန် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၈)ကိုယ်ပိုင်တက္ကသိုလ်တွင် မုန့်ဈေးတန်းတစ်ခုဖွင့်လှစ်ထားရှိပြီးကျန်းမာရေးနှင့်ညီညွတ်သော မုန့်များ ရောင်းချရန် ကြပ်မတ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၉)ကိုယ်ပိုင်တက္ကသိုလ်တွင် တက်ရောက်သင်ကြားနေသောကျောင်းသား၊ ကျောင်းသူများသွားလာရေး အဆင်ပြေရန်အတွက် ကြို/ပို့ ယာဉ်များထားရှိ၍ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၁၀) ကိုယ်ပိုင်တက္ကသိုလ်တွင် တက်ရောက်သင်ကြားနေသော ရပ်ဝေးမှလာရောက် ကျောင်းတက်သော ကျောင်းသား၊ ကျောင်းသူများအတွက် နေထိုင်စရာသင့်လျော်သောအိပ်ဆောင်များစီစဉ်ဆောင်ရွက် ပေးမည် ဖြစ်ပြီး ၄င်းတို့အတွက် အစားအသောက်အဆင်ပြေရန် စီစဉ်ဆောင်ရွက်ပေးမည်ဖြစ်ပါသည်။

(၁၁) ကိုယ်ပိုင်တက္ကသိုလ်တွင် တက်ရောက်သင်ကြားနေသောကျောင်းသား၊ ကျောင်းသူများစာပေ ဗဟုသုတတိုးပွားစေရန်အတွက်လည်းကောင်း၊ ဘာသာရပ်ဆိုင်ရာစာပေများပိုမိုလေ့လာနိုင်ရန်အတွက် လည်းကောင်းကျောင်းတွင် စာကြည့်တိုက်တစ်ခုထူထောင်ထားရှိပြီး E Library အဖြစ် ပူးတွဲ၍ ထားရှိမည် ဖြစ်ပါသည်။

(၁၂)ကိုယ်ပိုင်တက္ကသိုလ်တွင် တက်ရောက်သင်ကြားနေသောကျောင်းသား၊ ကျောင်းသူများ ပတ်ဝန်းကျင်ဗဟုသုတ တိုးပွားစေရန်အတွက်လည်းကောင်း၊ တစ်ဦးနှင့်တစ်ဦးချစ်ကြည်ရင်းနှီးမှုရှိစေရန် အတွက်လည်းကောင်းခရီးတိုဒေသန္တရလေ့လာရေးခရီးစဉ်အားနှစ်စဉ်စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၁၃) ကိုယ်ပိုင်တက္ကသိုလ်တွင်တက်ရောက်သင်ကြားနေသောကျောင်းသား၊ ကျောင်းသူများ ကျန်းမာပျော်ရွှင်ရေးအတွက် ကျောင်းသား၊ ကျောင်းသူများ စိတ်ဝင်စားရာ အားကစားနည်းများအလိုက် ကျောင်းတွင်းအားကစားပွဲများအားကျင်းပပေးသွားမည်ဖြစ်ပါသည်။

(၁၄) ကိုယ်ပိုင်တက္ကသိုလ်တွင် တက်ရောက်သင်ကြားနေသောကျောင်းသား၊ ကျောင်းသူများပရဟိတအလေ့အကျင့်များရရှိနိုင်ရန်ရည်ရွယ်၍ လူမှုရေးအထောက်အကူပြုလုပ်ငန်းများကျောင်းအားရက်တွင်ဆောင်ရွက်နိုင်ရန် စီစဉ်မည်ဖြစ်ပါသည်၊ ဥပမာ-ကျေးရွာ၊ ရပ်ကွက်အတွင်းအမှိုက်များကောက်ယူခြင်း၊ ရေစီးရေလာကောင်းအောင်မြောင်းဖော်ဆောင်ရွက်ခြင်း။

(၁၅)ကိုယ်ပိုင်တက္ကသိုလ်တွင် တက်ရောက်သင်ကြားနေသောကျောင်းသား၊ ကျောင်းသူများစိတ် အပန်းဖြေမှု အစီအစဉ်အဖြစ် ဆရာကန်တော့ပွဲတွင် ကျောင်းကပွဲများထည့်သွင်း၍ ဆောင်ရွက်မည်ဖြစ်ပါ သည်။

(၁၆) ကိုယ်ပိုင်တက္ကသိုလ်တွင် တက်ရောက်သင်ကြားနေသောကျောင်းသား၊ ကျောင်းသူများအနေဖြင့်အမိနိုင်ငံတော်အား ထာဝရဦးထိပ်ပန်ဆင်၍ ကျေးဇူးဆပ်နိုင်ရန်အတွက် နေ့စဉ် နံနက်တိုင်းကျောင်းစာသင်ချိန်မစမီ နိုင်ငံတော်သီချင်းအားသံပြိုင်ရွတ်ဆိုစေမည် ဖြစ်ပါသည်။

(၁၇) ကိုယ်ပိုင်တက္ကသိုလ်တွင် မြန်မာ့ရိုးရာယဉ်ကျေးမှုအရကျင်းပရသည့် ဘာသာရေးပွဲတော် များအားအားလုံးစုပေါင်း၍ ဆောင်ရွက်သွားရန် စီမံခန့်ခွဲသွားမည်ဖြစ်ပါသည်၊ ဥပမာ-ဂါဆိုသင်္ကန်းဆပ်ကပ်ခြင်း၊ ကထိန်သင်္ကန်းဆပ်ကပ်ခြင်း။

(၁၈) ကိုယ်ပိုင်တက္ကသိုလ်တွင် တက်ရောက်သင်ကြားနေသောကျောင်းသား၊ ကျောင်းသူများအနေဖြင့်ထူးချွန်ထက်မြက်သော၊ ကိုယ်ရည်ကိုယ်သွေးမြင့်မားသောကျောင်းသား၊ ကျောင်းသူများ ဖြစ်လာရန်အရည်အချင်းစစ်စာမေးပွဲများကျင်းပပြီးဆုပေးပွဲအခမ်းအနားများကိုလည်း နှစ်စဉ် စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၁၉) ကိုယ်ပိုင်တက္ကသိုလ်တွင် တက်ရောက်သင်ကြားနေသောကျောင်းသား၊ ကျောင်းသူများခေတ်နှင့်ရင်ဘောင်တန်းနိုင်ရန်အတွက် ကွန်ပျူတာဘာသာရပ်နှင့် အင်္ဂလိပ်စကားပြောဘာသာရပ်တို့အား ကျွမ်းကျင်ရန်လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါသည်။

(၂၀) ကိုယ်ပိုင်တက္ကသိုလ်တွင် တက်ရောက်သင်ကြားနေသောကျောင်းသား၊ ကျောင်းသူများအနက်မှ ပညာထူးချွန်၍ ဆင်းရဲနွမ်းပါးသောကျောင်းသား၊ ကျောင်းသူများအားပညာရေးထောက်ပံ့မှု အစီအစဉ်များထားရှိ၍ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

<u>ကိုယ်ပိုင်တက္ကသိုလ်ပတ်ဝန်းကျင်အတွက် (CSR) ဆောင်ရွက်ချက်</u>

ကုမ္ပဏီတွင် ထိန်းသိမ်းထားရှိသော (၂ %) လူမှုရေးတာဝန်ယူထောက်ပံ့မှုရန်ပုံငွေမှ အောက်ဖော်ပြပါ (CSR) လုပ်ငန်းများအားသုံးစွဲဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၁) ကိုယ်ပိုင်တက္ကသိုလ်တွင်လိုအပ်သော ဝန်ထမ်းအလုပ်သမားများအား ဒေသရှိလူငယ်များဖြင့် ခန့်ထားဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၂) ကိုယ်ပိုင်တက္ကသိုလ်ပတ်ဝန်းကျင်ဒေသရှိ စာသင်ကျောင်းများအတွက် လိုအပ်သောအဆောက်အဦးစာသင်ခုံနှင့် သင်ထောက်ကူပစ္စည်းများလှူဒါန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၃) ကိုယ်ပိုင်တက္ကသိုလ်ပတ်ဝန်းကျင်ဒေသရှိ ဘုန်းကြီးကျောင်းများသို့ လိုအပ်သောသာသနိက အဆောက်အဦး၊ ပစ္စည်းပစ္စည်းများအခါအားလျော်စွာလှူဒါန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၄) ကိုယ်ပိုင်တက္ကသိုလ်ကျောင်းပတ်ဝန်းကျင်ဒေသရှိ ရပ်ရွာနေပြည်သူများရေသုံးစွဲမှု အဆင်ပြေစေရန်အတွက် သောက်သုံးရေအား ပေးဝေလှူဒါန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၅) ကိုယ်ပိုင်တက္ကသိုလ်ကျောင်းပတ်ဝန်းကျင်ဒေသရှိ ရပ်ရွာနေပြည်သူများ၏ ပညာရည်ထူးချွန်သောသားသမီးများအတွက် ပညာသင်ထောက်ပံ့ကြေးများပေးအပ်သွားမည်ဖြစ်ပါသည်။

အကယ်၍ကနဦးနှစ်များ၌လုပ်ငန်းအနေဖြင့်အမြတ်ငွေများမရရှိပါကလည်းကုမ္ပဏီ၏"လူမှုရေးတာဝန်ယူမှုပေါင်းဆောင်ရွက်မှုရန်ပုံငွေ"အားဒါရိုက်တာအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်ဖြင့်ငွေသားကိန်းဂဏန်းတရပ်သတ်မှတ်၍ရန်ပုံငွေတူထောင်ထားရှိမည်ဖြစ်ပါသည်။၎င်းရန်ပုံငွေခေါင်းစဉ်အောက်မှပတ်ဝန်းကျင်ဒေသဖွံ့ဖြိုးရေး၊ကျန်းမာရေး၊ပညာရေးနှင့်လူမှုရေးများဖွံ့ဖြိုးတိုးတက်လာစေရန်အတွက်ထောက်ပံ့ပေးသွားမည်ဖြစ်ကြောင်းအားကတိဝန်ခံချက်ပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်



Khin Aye Win

Managing Director

Science And Tech International Myanmar University Co., Ltd.

Science And Tech International Myanmar University Co., Ltd.
Building No.(4),MICT Park, Hlaing Township, Yangon.
Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် ( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။ STI/ MIC / 2017-18 /
ရက်စွဲ ။

အကြောင်းအရာ။ ။ <u>ကုမ္ပဏီဝန်ထမ်းများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားမှုများအား တင်ပြခြင်း။</u>

အထက်အကြောင်းအရာနှင့်ပတ်သက်၍ နိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ Science And Tech International Myanmar University Co., Ltd. သည် ကိုယ်ပိုင်တက္ကသိုလ်တွင် အလုပ်လုပ်ကိုင်တာဝန်ထမ်းရွက်နေကြသည့် ဝန်ထမ်းနှင့်အလုပ်သမားများအတွက် အောက်ဖော်ပြပါကဏ္ဍများအလိုက် အလုပ်သမားသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးတို့အတွက် စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းအား လိုအပ်သလိုဆောင်ရွက်နိုင်ရန် တင်ပြအပ်ပါသည်။

(၁) ဝန်ထမ်း ကြို/ပို့ယာဉ်ဖြင့် ဝန်ထမ်းများ၊ အလုပ်သမားများ အလုပ်တက်၊ ဆင်းနိုင်ရန်အတွက် ကြို/ပို့ ဖယ်ရီကားများစီစဉ်ထားရှိပါမည်။ လုပ်ငန်းမှစီစဉ်ပေးသည့် ကြို/ပို့ ဖယ်ရီစီးကြသော အလုပ်သမားများအပေါ် ဖယ်ရီကားခကောက်ခံခြင်းမရှိဘဲ အခမဲ့ပို့ဆောင်ပေးမည်ဖြစ်ပါသည်။

(၂) ကုမ္ပဏီဝန်ထမ်းများ၊ အလုပ်သမားများနှင့် စာသင်သည့်ဆရာ၊ ဆရာမများအနေဖြင့် အလုပ်ဆင်းရက်မှန်ကန်ပါကလုပ်ငန်းအား အာရုံစူးစိုက်လုပ်ကိုင်ခြင်းကို အသိအမှတ်ပြုသည့်အနေဖြင့် တစ်နှစ်တစ်ကြိမ် ဂုဏ်ပြုဆုကြေးထုတ်ပေးပါမည်။

(၃) လုပ်ငန်းရှိဝန်ထမ်းများ၊ အလုပ်သမားများနှင့် ဆရာ၊ ဆရာမများသည် အချိန်ပိုဆင်းရပါက တစ်နာရီအတွက်လုပ်အားခငွေကြေး (၂) ဆတွက်ချက်ပေးပါမည်။ လုပ်ငန်းလိုအပ်ချက်အရ ညဉ့်နက်အထိလုပ်ရပါက အစားအသောက်ကျွေးမွေးခြင်းစီစဉ်များ ဆောင်ရွက်ပေးသွားမည် ဖြစ်ပါသည်။

(၄) ကုမ္ပဏီတွင်ခန့်အပ်တာဝန်ပေးမည့် ဝန်ထမ်းများ၊ အလုပ်သမားများအားလုံးအတွက် လုပ်ငန်းခွင်တွင်စိတ်ဓာတ်တက်ကြွညီညွတ်ရန်အတွက် တူညီဝတ်စုံများ(Uniform) အခမဲ့ထုတ်ဝေပေးမည်ဖြစ်ပါသည်။

(၅) ကုမ္ပဏီတွင်ရှေးဦးသူနာပြုဆေးသေတ္တာထားရှိမည်ဖြစ်ပြီး၊ ထိခိုက်အက်ရာရရှိပါကသက်ဆိုင်ရာနယ်မြေအလိုက်ဖွင့်လှစ်ထားသည့် လူမှုဖူလုံရေးဆေးခန်းသို့စေလွှတ်၍ ဆေးဝါးကုသမှုခံယူပါမည်။

(၆) ၂၀၁၂ခုနှစ်လူမှုဖူလုံရေးဥပဒေအရ ကုမ္ပဏီရှိဝန်ထမ်း၊ အလုပ်သမားများအားလုံးအား လူမှုဖူလုံရေးဥပဒေအရ လူမှုရေး ကျန်းမာရေးစောင့်ရှောက်မှုနှင့် ငွေကြေးအကျိုးခံစားခွင့်များပိုမိုရရှိစေရန် သက်ဆိုင်ရာလူမှုဖူလုံရေးအဖွဲ့၌ မှတ်ပုံတင်သွားမည်ဖြစ်ပါသည်။ လူမှုဖူလုံရေးထည့်ဝင်ငွေနှင့်ပတ်သက်၍ အလုပ်ရှင်မှထည့်ဝင်ရမည့် ထည့်ဝင်ကြေးအား

အလုပ်ရှင်မှထည့်ဝင်သွားမည့်အပြင် အလုပ်သမားများမှထည့်ဝင်ရမည့် ထည့်ဝင်ကြေးများကို ၎င်းတို့၏လစာမှ ဖြတ်တောက်၍ လူမှုဖူလုံရေးဌာနသို့ ပေးသွင်းထည့်ဝင်သွားမည်ဖြစ်ပါသည်။

(၇) ကုမ္ပဏီတွင်တာဝန်ထမ်းဆောင်သည့်ဝန်ထမ်း၊ အလုပ်သမားများအနေဖြင့်မိမိတို့မိသားစုအတွင်းသာရေး၊ နာရေးကိစ္စများပေါ်ပေါက်ပါကသာရေးနာရေးကူညီထောက်ပံ့ငွေများထောက်ပံ့ပေးအပ်သွားမည်ဖြစ်ပါသည်။

(၈) ကုမ္ပဏီတွင်တာဝန်ထမ်းဆောင်သည့်ဝန်ထမ်း၊ အလုပ်သမားများအနေဖြင့်လုပ်ငန်းခွင်အတွင်းအေးချမ်းသာယာစွာ အလုပ်လုပ်နိုင်ရန်အတွက် အဆောက်အအုံအတွင်း၌ လေဝင်လေထွက်ကောင်းအောင် စီမံထားရှိမည်ဖြစ်ပါသည်။ ထို့အပြင် ပန်ကာများ၊ လေအေးပေးစက်များဖြင့်အဆောက်အအုံအတွင်းရှိ လေထုများအား သန့်ရှင်းအောင် ဆောင်ရွက်မည် ဖြစ်ပါသည်။

(၉) ကုမ္ပဏီတွင်အလုပ်လုပ်နေကြသည့်ဝန်ထမ်းများ၊ အလုပ်သမားများ သန့်ရှင်းသောရေသောက်သုံးနိုင်ရန်အတွက် ရေသန့်စက်များနှင့်ရေစစ်ဘူးများထားရှိပြီး သန့်ရှင်းသောသောက်ရေသန့်အား သောက်သုံးရန် စီစဉ်ထားရှိမည်ဖြစ်ပါ သည်။

(၁၀) ရပ်ဝေးနယ်များမှ ကိုယ်ပိုင်တက္ကသိုလ်ကျောင်းတွင် အလုပ်လုပ်ကိုင်လျက်ရှိသည့် ဝန်ထမ်းများနှင့် ဆရာ၊ ဆရာမများအနက်မှ ရိုးသား၍ အလုပ်ကြိုးစားလုပ်ကိုင်သည့်သူများအား ကိုယ်ပိုင်တက္ကသိုလ်ကျောင်းတည်ရှိရာ ဧရိယာတဝိုက် တွင်နေထိုင်ရန် "အဆောင်များ" ငှားရမ်းဆောင်ရွက်ပေးပါမည်။

(၁၁) ကုမ္ပဏီတွင် ဝန်ထမ်းများနှင့် ဆရာ၊ ဆရာမများ အားလပ်ချိန်တွင် စာပေအသိပညာနှင့် ဗဟုသုတရရှိစေရန် စာကြည့်တိုက်တစ်ခု ထူထောင်ထားရှိမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

Khin Aye Win

Managing Director

Science And Tech International Myanmar University Co., Ltd.

Science And Tech International Myanmar University Co., Ltd.
Building No.(4),MICT Park, Hlaing Township, Yangon.
Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။ STI / MIC / 2017-18 /
ရက်စွဲ ။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့်Science And Tech International Myanmar University Co., Ltd.မှကိုယ်ပိုင်စာသင်ကျောင်းလုပ်ငန်းစီမံကိန်းနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုမရှိစေရန်အကောင်အထည်ဖော်ဆောင်ရွက်မည့်အစီအစဉ်များရေးဆွဲမည့်အခြေအနေအားတင်ပြခြင်း။

Science And Tech International Myanmar University Co., Ltd.သည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အမှတ် (၆ဂ၅)၊ မဟာသုခိတာလမ်းမကြီး၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက် ၆ဒီ (၁၄၊၁၅၊၁၆ )၊ မြေကွက်အမှတ် (၃၄၄/ဘီ) ရှိမြေဧက(ဂ.၁၁၄)တွင် Project (1) အဖြစ်လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီး၊ ချမ်းမြသာစည်မြို့နယ်၊ မြို့သစ်(၁)ရပ်ကွက်၊ ကွင်းအမှတ် (မ-၂၃) ရှိ မြေ(ဂ.၁၈၃၆) ဧကပေါ်တွင် Project(2) အဖြစ်လည်းကောင်း၊ ထိုမြေနေရာများအပေါ်တွင် မြန်မာနိုင်ငံသားများမှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လျက် အမျိုးသားပညာရေးဥပဒေအရကိုယ်ပိုင်တက္ကသိုလ် ထူထောင်၍ ပညာရေးဝန်ဆောင်မှု လုပ်ငန်းအဖြစ် အထက်တန်း အောင်ပြီးကျောင်းသူ၊ကျောင်းသားများအားနိုင်ငံတကာအဆင့်မှီ အသက်မွေးဝမ်းကြောင်း ပညာရပ်ဆိုင်ရာ ဘာသာရပ်များအတွက် အသိမှတ်ပြုလက်မှတ်များ ၊ဒီပလိုမာလက်မှတ်များနှင့် ဘွဲ့လက်မှတ်များ ရရှိနိုင်မည့် တက္ကသိုလ်ဆင့် ပညာရပ်များအပြင် ဘွဲ့လွန်ပညာရပ်များ တက်ရောက်သင်ကြားနိုင်ရန်အတွက် ပုဂ္ဂလိကပိုင် တက္ကသိုလ်ပညာရေး ဝန်ဆောင်မှုလုပ်ငန်းအားဆောင်ရွက်လိုပါ၍ လုပ်ကိုင်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်တင်ပြထားသည့် ကုမ္ပဏီတစ်ခုဖြစ်ပါသည်။ ယင်းစီမံကိန်းနှင့်ပတ်သက်၍လုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးစေမှုများ၊ လူမှုအကျိုးစီးပွားနှင့်ကျန်းမာရေးအပေါ် ထိခိုက်စေမှုများမရှိစေရန် (သို့မဟုတ်) နည်းပါးစေရန်အတွက် သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုဆန်းစစ်လေ့လာခြင်း(Environmental Impact Accessment-EIA) လုပ်ငန်းနှင့် အဆိုပါဆန်းစစ်လေ့လာတွေ့ရှိချက်များကို အခြေခံ၍ ပတ်ဝန်းကျင် ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်အတွက်ဆောင်ရွက်မည့် စီမံချက်များပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ်(EMP)တို့ကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၂ဂ၁၂အရလည်းကောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနည်းဥပဒေများ ၂ဂ၁၄ အရလည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏စည်းမျဉ်းများ ၂ဂ၁၃အရလည်းကောင်း၊ နိုင်ငံတကာစံချိန်စံညွှန်းနှင့်အညီကျွမ်းကျင်သည့်ပညာရှင်များဖြင့်တာဝန်ယူလေ့လာဆန်းစစ်မှုများပြုလုပ်၍အစီရင်ခံတင်ပြသွားရန်ရှိပါသည်။အစီရင်ခံစာများကို ပြုစုရာတွင်-

1. အဆိုပြုလုပ်ငန်းစီမံကိန်း၏ နောက်ခံအကြောင်းအရာများ၊ စီမံကိန်း၏ အနီးဝန်းကျင်ရှိ ရူပပတ်ဝန်းကျင်ဆိုင်ရာ အကြောင်းအချက်များ၊ သက်ရှိဇီဝဆိုင်ရာ အကြောင်းအချက်များ၊ လူမှုစီးပွားဆိုင်ရာအကြောင်းအရာများကို ကွင်းဆင်းလေ့လာဆောင်ရွက်သွားပါမည်။
2. ကွင်းဆင်းလေ့လာဆောင်ရွက်ရာတွင်လည်း GIS နည်းပညာအသုံးပြု၍မြေပုံထုတ်ခြင်း၊ မြေဆီလွှာနှင့်ရေနမူနာများယူ၍စစ်ဆေးခြင်းများကိုပြုလုပ်ဆောင်ရွက်သွားပါမည်။
3. သဘာဝပတ်ဝန်းကျင်သက်ရောက်နိုင်မှုနှင့် ထိခိုက်နိုင်မှုဆန်းစစ်လေ့လာရာတွင်လည်းအကြိုတည်ဆောက်မှုလုပ်ငန်းဆောင်ရွက်ခြင်း၊ တည်ဆောက်ခြင်း၊ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်း၊ လုပ်ငန်းရပ်စဲခြင်းနှင့် လုပ်ငန်းရပ်စဲပြီးကာလဟူ၍လုပ်ငန်းအဆင့်အသီးသီးအလိုက် ယင်းစီမံကိန်း၏ ပတ်ဝန်းကျင်အပေါ်

Building No.(4),MICT Park, Hlaing Township, Yangon.
Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315

လူမှုအကျိုးစီးပွားနှင့် ကျန်းမာရေးအပေါ် အကျိုးသက်ရောက်နိုင်မှုများကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ချမှတ်ထားသောသတ်မှတ်ချက်များကိုအခြေခံ၍အသေး စိတ်လေ့လာဆန်းစစ်ဆောင်ရွက်သွားပါမည်။

4. ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ်များရေးဆွဲရာတွင်လည်းအကြိုတည်ဆောက်မှုလုပ်ငန်းဆောင်ရွက်ခြင်း၊တည်ဆောက်ခြင်း၊ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်း၊ လုပ်ငန်းရပ်စဲခြင်းနှင့် လုပ်ငန်းရပ်စဲပြီးကာလဟူ၍လုပ်ငန်းအဆင့်အသီးသီးအလိုက် ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် ဆောင်ရွက်မည့်အစီအမံများ၊ စီမံခန့်ခွဲမှုနှင့် စောင့်ကြပ်ကြည့်ရှုမည့်အစီအစဉ်များ၊ အရေးပေါ် အစီအစဉ်များကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှချမှတ်ထားသော သတ်မှတ်ချက်များကိုအခြေခံ၍ အသေးစိတ်ရေးဆွဲဆောင်ရွက်သွားပါမည်။ ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ် (EMP) အစီရင်ခံစာအပြည့်အစုံကိုပြုစု၍ပေးပို့တင်ပြသွားမည်ဖြစ် ကြောင်းအစီရင်ခံ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Khin Aye Win
Managing Director/CEO
Science And Tech International Myanmar University Co., Ltd.

**Science And Tech International Myanmar University Co., Ltd.**
Building No.(4),MICT Park, Hlaing Township, Yangon.
Tel: 951-507048, 507151/52, 09250064451,0931702299, Fax:951-652315

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ၊ STI / MIC / 2017-18 /
ရက်စွဲ ၊

အကြောင်းအရာ။ ။Science And Tech International Myanmar University Co., Ltd.၏ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံခန့် ခွဲမှုစီမံချက်။

အထက်အကြောင်းအရာပါကိစ္စရပ်နှင့်ပတ်သက်၍ Science And Tech International Myanmar University Co., Ltd. သည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အမှတ် (၆၀၅)၊ မဟာသုခိတာလမ်းမကြီး၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက် ၆ဒီ ( ၁၄၊၁၅၊၁၆ )၊ မြေကွက်အမှတ် (၃၄၄/ဘီ) ရှိမြေဧက (၀.၁၁၄) တွင် Project (1) အဖြစ်လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီး၊ ချမ်းမြသာစည်မြို့နယ်၊ မြို့သစ်(၁)ရပ်ကွက်၊ ကွင်းအမှတ် (မ-၂၃) ရှိ မြေ(၀.၁၈၃၆) ဧကပေါ်တွင် Project(2) အဖြစ်လည်းကောင်း၊ ထိုမြေနေရာများ အပေါ်တွင် မြန်မာနိုင်ငံသားများမှ ရင်းနှီးမြှုပ်နှံမှု့ပြုလုပ်လျက် အမျိုးသားပညာရေးဥပဒေအရ ကိုယ်ပိုင်တက္ကသိုလ် ထူထောင်၍ ပညာရေးဝန်ဆောင်မှု လုပ်ငန်းအဖြစ် အထက်တန်းအောင်ပြီး ကျောင်းသူ၊ ကျောင်းသားများအား နိုင်ငံတကာအဆင့်မှီ တက္ကသိုလ် ပညာရပ်များ၊ ဘွဲ့လွန်ပညာရပ်များ သင်ကြားတက်ရောက်နိုင်ရန်အတွက် ကိုယ်ပိုင်တက္ကသိုလ် ထူထောင်ခြင်း လုပ်ငန်းတစ်ရပ် ဆောင်ရွက်လိုပါ၍ လုပ်ကိုင်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု့ကော်မ ရှင်သို့ရင်းနှီးမြှုပ်နှံမှု့ အဆိုပြုချက် တင်ပြထားသည့် ကုမ္ပဏီတစ်ခု ဖြစ်ပါသည်။

ကုမ္ပဏီအနေဖြင့် စီမံကိန်းလုပ်ငန်းဆောင်ရွက်မည့်ဒေသတွင် ကိုယ်ပိုင်တက္ကသိုလ်လုပ်ငန်းအားလုပ်ဆောင်ရာ၌ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ သဘာဝပတ်ဝန်းကျင်နှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ပြဌာန်းထားသည့် သတ်မှတ်ချက်များအားလည်း ပြည့်ဝစွာလိုက်နာဆောင်ရွက်မည့်အပြင် မိမိတို့လုပ်ငန်း၌လည်း သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မှုနှင့် လူမှုစီးပွားဆိုင်ရာထိခိုက်မှု မပေါ်ပေါက်လာစေရန် လိုအပ်သည့် လုပ်ငန်းစီမံချက်များကို အောက်ပါ အတိုင်းချမှတ်ဆောင်ရွက်မည်ဖြစ်ပါသည်။

သဘာဝပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုစီမံချက်

(၁) ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်ရွက်မှုအစီအစဉ်
(၂) စွန့်ပစ်ပစ္စည်းနှင့်စွန့်ပစ်အရည်များစီမံခန့်ခွဲမှုအစီအစဉ်
(၃) ပတ်ဝန်းကျင်နှင့်လူမှုရေး၊ ကျန်းမာရေးဆိုင်ရာထိခိုက်မှုရှိ၊ မရှိစောင့်ကြည့်လေ့လာမည့်အစီအစဉ်
(၄) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မည့်အစီအစဉ်
(၅) ပတ်ဝန်းကျင်နှင့်လူမှုရေး၊ ကျန်းမာရေးထိခိုက်မှုလျှော့ပေါ့ရေးဆောင်ရွက်မှုအတွက်သုံးစွဲမည့်ရန်ပုံငွေ သတ်မှတ်ထားခြင်းအစီအစဉ်

(၁) ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်ရွက်မှုအစီအစဉ်

(က)စီမံကိန်းဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်မည့် ဝန်ထမ်းအလုပ်သမားများအား ကုမ္ပဏီမှရေးဆွဲထားသည့် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မှု အစီစဉ်အား ကျေညက်စွာ သိရှိရန်သင်တန်းများ ပို့ချပေးရန်။

(ခ)လိုအပ်ပါက ပြင်ပရှိသဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်သည့်ပညာရှင်များအား ဖိတ်ခေါ်၍ သင်တန်းပို့ချပေးရန်။

(ဂ) လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်နေစဉ်သဘာဝပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှုများရှိလာနိုင်ပါက သက်ဆိုင်ရာတာဝန်ရှိသည့်အဖွဲ့အစည်းများနှင့်ပေါင်းစပ်၍လည်းကောင်း၊ပြုပြင်လုပ်ကိုင်သွားမည်ဖြစ်ပါသည်။

(၂) စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များစီမံခန့်ခွဲမှုအစီအစဉ်

(က) ကုမ္ပဏီမှဖွင့်လှစ်ထားသောတက္ကသိုလ်အတွင်းတွင် ကျောင်းသား/သူများ၊ဆရာ/ဆရာမများနှင့် ရုံးဝန်ထမ်းများမှ စွန့်ပစ်ခဲ့သောအမှိုက်များအား စနစ်တကျသိမ်းဆည်း၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးအဖွဲ့၏ လမ်းညွှန် ချက်နှင့်အညီ ယင်းအမှိုက်များအားစွန့်ပစ်ဖျက်စီးသွားမည်ဖြစ်ပါသည်။

(ခ) ကုမ္ပဏီပိုင်ကားများ၊ ကျောင်းကြိုပို့ကားများမှစွန့်ပစ်သည့် အင်ဂျင်ဝိုင်နှင့်ဂီယာဝိုင်အဟောင်းများအား အသစ်ဖြင့်လဲလှယ်ပြီးပါကပုံးများဖြင့် သိုလှောင်ထားရှိမည်ဖြစ်ပါသည်။ ထို့နောက်အင်ဂျင်ဝိုင်နှင့် ဂီယာဝိုင်အဟောင်း ဈေးကွက်သို့ လုပ်ငန်းအနေဖြင့်အခြားဝင်ငွေရရှိစေရန် ရောင်းချမည်ဖြစ်ပါသည်။

(ဂ) ကုမ္ပဏီပိုင်ကားများ၊ ကျောင်းကြိုပို့ကားများဆေးကြောခြင်းမှထွက်ရှိသည့် ရေများအားရေမြောင်းများ အတွင်းသို့လည်းကောင်း စွန့်ပစ်မည်ဖြစ်ပါသည်။

(၃) လုပ်ငန်း၏ပတ်ဝန်းကျင်နှင့်လူမှုရေး၊ကျန်းမာရေးဆိုင်ရာထိခိုက်မှုရှိ၊မရှိစောင့်ကြည့်လေ့လာမည့်အစီအစဉ်

(က) လုပ်ငန်း၏ပင်မတည်နေရာသည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အမှတ် (၆ဂ၅)၊ မဟာသုခိတာလမ်းမကြီး၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက် ၆ဒီ ( ၁၄၊၁၅၊၁၆ )၊ မြေကွက်အမှတ် (၃၄၄/ဘီ) ရှိမြေဧက (ဂ.၁၁၄) တွင် Project (1) အဖြစ်လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီး၊ ချမ်းမြသာစည်မြို့နယ်၊ မြို့သစ်(၁)ရပ်ကွက်၊ ကွင်းအမှတ် (မ-၂၃) ရှိ မြေ(ဂ.၁၈၃၆) ဧကပေါ်တွင် Project(2) အဖြစ်လည်းကောင်း၊ ထိုမြေနေရာများ အပေါ်တွင်တည်ရှိပြီး သီးခြားအိမ်ယာဝန်းအတွင်း၌ ဖွင့်လှစ်ထားရှိသဖြင့် မိမိတို့လုပ်ငန်းသည် ပတ်ဝန်းကျင်အား ထိခိုက်မှုရှိရန်ခဲယဉ်းပါသည်။

(ခ) သို့ရာတွင် မိမိတို့ကုမ္ပဏီအနေဖြင့် ကိုယ်ပိုင်တက္ကသိုလ်ဖွင့်လှစ်ထားသောနေရာဒေသရှိ ပတ်ဝန်းကျင်နှင့်လူမှုရေးကျန်းမာရေးဆိုင်ရာထိခိုက်မှုရှိ၊မရှိအား စောင့်ကြည့်လေ့လာရန်ကုမ္ပဏီတွင် စောင့်ကြည့်လေ့လာရေး အဖွဲ့ ဖွဲ့စည်းမည်ဖြစ်ပါသည်။

(ဂ) အဆိုပါစောင့်ကြည့်လေ့လာရေးအဖွဲ့သည် ကိုယ်ပိုင်တက္ကသိုလ်ဖွင့်လှစ်ထားသောပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ပြောင်းလဲလာသောစိတ်နေစိတ်ထားနှင့် စာသင်ကျောင်းအတွက်အသုံးပြုနေသော လုပ်ငန်းသုံးကား

များကြောင့်အလုပ်လုပ်ကိုင်နေသည့်ဒေသ ပတ်ဝန်းကျင်ထိခိုက်မှုပျက်စီးမှုများရှိမရှိအားလည်းကောင်း ကိုယ်တိုင်သွားရောက် လေ့လာ၍ ဒါရိုက်တာအဖွဲ့ထံအစီရင်ခံစာတင်ပြရမည်ဖြစ်ပါသည်။

(ဃ)ကုမ္ပဏီ၏စောင့်ကြည့်လေ့လာရေးအဖွဲ့၏အစီရင်ခံစာအရထိုဒေသတွင်သဘာဝပတ်ဝန်းကျင်ထိခိုက်ခြင်း၊ဒေသဆိုင်ရာအဖွဲ့အစည်းများ၊ ရပ်မိရပ်ဖများနှင့်ကျွမ်းကျင်သူများနှင့်ပူးပေါင်းကာ သင့်တော်သည့်နည်းစနစ်များဖြင့်ပြန်လည်ပြင်ဆင်ပေးမည်ဖြစ်ပါသည်။

(င)ဤကဲ့သို့ပြန်လည်ဆောင်ရွက်ပြီးသည့်တိုင်စောင့်ကြည့်လေ့လာရေးအဖွဲ့သည်ရပ်ရွာရှိလူမှုရေးအဖွဲ့များနှင့်ပူးပေါင်း၍ဆက်လက်စောင့်ကြည့်စေမည်ဖြစ်ပါသည်။

(စ) အကယ်၍လိုအပ်လာပါကပြင်ပကျွမ်းကျင်သူအဖွဲ့အစည်းများနှင့်ချိတ်ဆက်၍သဘာဝပတ်ဝန်းကျင်အားပြန်လည်ထိန်းသိမ်းစောင့်ရှောက်ခြင်း၊လူမှုရေးနှင့်စီးပွားရေးနစ်နာမှုများအားပြန်လည်ထူထောင်ပေးခြင်းများပြုလုပ်မည်ဖြစ်ပါသည်။

(ဆ) လုပ်ငန်းသွားရောက်လုပ်ကိုင်ရာဒေသအတွင်းပတ်ဝန်းကျင်နှင့်လူမှုစီးပွားထိခိုက်မှုမရှိစေကာမူလုပ်ငန်းအနေဖြင့် လိုအပ်သောဒေသဆိုင်ရာ ပတ်ဝန်းကျင်နှင့်လူမှုစီးပွားအတွက် ဖွံ့ဖြိုးတိုးတက်ရန် လိုအပ်ချက်များရှိနေကြောင်း စောင့်ကြည့်လေ့လာရေးအဖွဲ့က အစီရင်ခံတင်ပြလာပါက လုပ်ငန်းအနေဖြင့် သက်ဆိုင်ရာအဖွဲ့များနှင့်ပူးပေါင်းကာ ဆောင်ရွက်ပေးသွားမည်ဖြစ်ပါသည်။

<u>(၄)သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မည့်အစီအစဉ်များကိုအောက်ပါအတိုင်းစီစဉ်ဆောင်ရွက်မည်ဖြစ်ပါသည်။</u>

(က) ကုမ္ပဏီလုပ်ငန်း၏ပတ်ဝန်းကျင်တွင်စိမ်းလန်းသာယာမှုရှိစေရန်သစ်ပင်၊ပန်းမာန်များစိုက်ပျိုးခြင်း၊

(ခ)လုပ်ငန်းနေရာပတ်ဝန်းကျင်တွင်လုပ်ငန်းကြောင့်မြောင်းပိတ်၊ချောင်းပိတ်မဖြစ်စေရန်အတွက်ရေစီးရေလာကောင်းအောင်ရေဆင်းမြောင်းများ စနစ်တကျပြုလုပ်ဆောင်ရွက်ပေးထားခြင်း၊

(ဂ)လုပ်ငန်းသုံးမီးစက်အကြီးစားယန္တရားကြီးများအား အမြဲမပြတ်ပြုပြင်မွမ်းမံခြင်း၊ ထိန်းသိမ်းခြင်းများ ပုံမှန်ပြုလုပ်ခြင်းအားဖြင့် စက်ယန္တရားကြီးများမှထွက်ရှိမည့် ကာဗွန်ဒိုင်အောက်ဆိုဒ်မီးခိုးများ ထွက်ရှိမှုနည်းအောင်ဆောင်ရွက်ခြင်း၊

(ဃ)အခါအားလျော်စွာသဘာဝပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်ရေးအဖွဲ့များ၏ပူးပေါင်းဆောင်ရွက်မှုဖြင့်လည်းကောင်း၊သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏လမ်းညွှန်မှုဖြင့်လည်းကောင်း သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းအားပူးပေါင်းလုပ်ကိုင်ပေးမည်ဖြစ်ပါသည်၊

<u>(၅)သဘာဝပတ်ဝန်းကျင်နှင့်လူမှုရေး၊ကျန်းမာရေးထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မှုအတွက်သုံးစွဲမည့်ရန်ပုံငွေသတ်မှတ်ခြင်း။</u>

လုပ်ငန်းဆောင်ရွက်မှုကြောင့်သဘာဝပတ်ဝန်းကျင်နှင့်လူမှုစီးပွားအပါအဝင်ကျန်းမာရေးထိခိုက်မှုလျော့နည်းစေရန်အတွက်ရည်ရွယ်၍ ကုမ္ပဏီအနေဖြင့်၎င်းအတွက် အသုံးစရိတ်ရန်ပုံငွေတစ်ရပ်သီးခြားထားရှိဆောင်ရွက်မည်ဖြစ်ပါသည်။ ဤရန်ပုံငွေသည်ကုမ္ပဏီ၏အမြတ်ငွေမှ ( ၂%) ရာခိုင်နှုန်းဖြင့် သီးသန့်ရန်ပုံငွေထားရှိမည် ဖြစ်ပါသည်။ ဤရန်ပုံငွေမှ သဘာဝပတ်ဝန်းကျင်နှင့်လူမှုရေးကျန်းမာရေးဆိုင်ရာ ထိခိုက်မှုလျော့ပါးရေးလုပ်ငန်းစဉ်တစ်ခုတည်းကိုသာ သုံးစွဲဆောင်ရွက်မည်ဖြစ်ပါသည်၊

# SCIENCE AND TECH INTERNATIONAL MYANMAR UNIVERSITY CO.,LTD.

## COMPANY BUSINESS PROFILES ( BRIEF )

Supervised by – Daw Hla Kyu (Consultant)
Prepared by – Daw Htet Htet Win& Daw Sandar Myint
Compiled by – Daw Yu Yu Aung

## ၁။ နိဒါန်း

STI Myanmar University ကို STI Educationအနေဖြင့် ၂၀၀၆ ခုနှစ် ဇန်နဝါရီလတွင် စတင်ဖွင့်လှစ်ခဲ့ပါသည်။ ပညာရေးလုပ်ငန်းများကို နှစ်အလိုက် သုံးသပ်နိုင်ရန် နှစ်ချုပ်အစီရင်ခံစာများကို မှတ်တမ်းတင်ထားရှိပါသည်။ ဤအစီအရင်ခံစာသည် STI Myanmar University ၏ ၁.၁.၂၀၀၆ မှ ၃၀.၁၂.၂၀၀၆ ရက်နေ့အထိ တစ်နှစ်တာ လုပ်ဆောင်ခဲ့သော ပညာရေးဆိုင်ရာလုပ်ဆောင်ချက်များ၊ စီမံခန့်ခွဲမှုဆိုင်ရာ တိုးတက်ပြောင်းလဲလာမှုများ၊ လုပ်ငန်းတိုးချဲ့အောင်မြင်မှုများကို သုံးသပ်တင်ပြပြီး ၂၀၀၇ ခုနှစ်တွင်ဆက်လက်ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်များကို ခုညေးတင်ပြထားခြင်းဖြစ်ပါသည်။ စတင်တည်ထောင်သည့် ၂၀၀၆ ခုနှစ်မှ ယခု ၂၀၀၆ ခုနှစ်အထိ ဆောင်ရွက်ချက်အသီးသီး၏ တိုးတက်ပြောင်းလဲမှုများကို Graph များဖြင့်အသီးသီးတင်ပြထားရှိပါသည်။ ၂၀၀၆ ခုနှစ်တွင် စတင်လုပ်ဆောင်ခဲ့သည့်လုပ်ငန်းတိုးချဲ့မှုများ၊ မိတ်ဖက်တက္ကသိုလ် အသစ်များ၊ အစီအစဉ်အသစ်များကို လည်းထည့်သွင်းတင်ပြထားပါသည်။

## ၂။ STI Myanmar University ၏ လက်ရှိ Campus များ (တက္ကသိုလ်နယ်မြေများ)

၂၀၀၆ ခုနှစ်အထိ STI Myanmar University ကို campus လေးခုဖြင့် ဖွင့်လှစ်သင်ကြားလျက်ရှိပါသည်။ Campus အားလုံးသည် ရန်ကုန်မြို့ တွင် တည်ရှိပြီး MICT Park, Building 10 တွင်တည်ရှိသော STI Main Campus, ရွှေဘုံသာလမ်းတွင်တည်ရှိသော STI Down Town Campus နှင့် မိုလ်တစ်ထောင်နယ်မြေတွင်တည်ရှိသော STI-NMDC Campus, Insein တွင်တည်ရှိသော Insein Campus(New) တို့ဖြစ်ပါသည်။

1. **MICT Campus** - Block (10), Phase (3), Myanmar ICT Park, Hlaing Campus, Hlaing Township, Yangon, Myanmar.
2. **Shwe Bon Thar Campus** - No.377, Upper Shwe Bon Thar Street, Pabedan Township, Yangon, Myanmar.
3. **Botahtaung Campus** - No (273/279), Merchant Road, Botahtaung Township, Yangon, Myanmar.
4. **Insein Campus(New)** - No(62), Aung Zay Ya Street(1), Phawt Kan Ward, Insein Township, Yangon, Myanmar.

## ၃။ ဖွင့်လှစ်ခဲ့သော သင်တန်းများ

၂၀၀၆ ခုနှစ်အတွင်းဖွင့်လှစ်ခဲ့သော သင်တန်းများမှာ Master Courses, Undergraduate Courses (Diploma and Advanced Diploma,BBA ဆ FinalYearCourses နှင့် Certificate Courses)တို့ ဖြစ်ကြပါသည်။

( ) Master Courses

| No. | Course Titles | Campus |
|---|---|---|
| 1. | Master of Business Administration(The Open University of Hong Kong) | MICT |
| 2. | Master of Education (The Open University of Hong Kong) | MICT |
| 3. | Master of Business Administration(General) (University of Bedfordshire –UK) | MICT |
| 4. | Master of Business Administration (Hospital & Health Services management) (UoB-UK) | MICT |
| 5. | Master of Science(Public Health) (University of Bedfordshire –UK) | MICT |
| 6. | Master of Science (Nutrition & Dietetics) ( Mahidol University , Thailand) | MICT |

( ) Undergraduate Courses – Diploma, Advanced Diploma and BBA Final Year Courses

| No. | Course Titles | Campus |
|---|---|---|
| 1. | Diploma in TESOL(Teaching English to Speakers of Other Languages)(LTTC-UK) | SBT |
| 2. | Diploma in Logistics Management(AMA-UK) | SBT |
| 3. | Advanced Diploma in Business Management | MICT |
| 4. | Diploma in Business Management | STI-NMDC |
| 5. | Diploma in Business Management | MICT |
| 6. | Diploma in Supply Chain Management(AMA-UK) | SBT |
| 7. | Diploma in Finance and Banking(NMDC) | NMDC |
| 8. | Bachelor of Business Administration (BBA-Final Year) | MICT |
| 9. | Diploma in Engineering (Civil & Architecture) | MICT |

( ) Certificate Courses

| No. | Course Titles | Campus |
|---|---|---|
| 1. | Certificate in TEFL(Teaching English as a Foreign Language)(LTTC,UK) | SBT |
| 2. | Certificate in TEYLT(Teaching English to Young Learners and Teenagers(LTTC,UK) | SBT |
| 3. | Certificate in Business Management (OUHK) | MICT |
| 4. | Certificate in Business Management (UoB-UK) | MICT |
| 5. | Certificate in Business Management | STI-NMDC |
| 6. | Certificate in Financial Services | STI-NMDC |
| 7. | Foundation Certificate in Engineering (Civil& Architecture) | MICT |

၂၀၀၆ ခုနှစ်မှ ၂၀၁၆ ခုနှစ်အထိဖွင့်လှစ်ခဲ့သော သင်တန်း အရေအတွက် တိုးတက်ပြောင်းလဲမှုကို စာရင်းပြုစုထားရှိပါသည် -




| | 2006 | 2007 | 2008 | 2009 | 2010 | 2011 | 2012 | 2013 | 2014 | 2015 | 2016 |
|---|---|---|---|---|---|---|---|---|---|---|---|
| Post Graduate | 0 | 0 | 0 | 0 | 0 | 1 | 2 | 2 | 2 | 2 | 6 |
| Diploma | 3 | 5 | 8 | 7 | 7 | 4 | 6 | 8 | 8 | 8 | 9 |
| Certificate | 5 | 7 | 8 | 10 | 14 | 9 | 7 | 9 | 11 | 13 | 7 |
| Specific | 0 | 2 | 1 | 0 | 2 | 0 | 0 | 0 | 0 | 1 | 1 |

**Figure 1.** ဖွင့်လှစ်ပြီးသင်တန်းများစာရင်း

၂၀၀၆ ခုနှစ်မှ ၂၀၁၆ ခုနှစ်အထိဖွင့်လှစ်သင်ကြားခဲ့သော သင်တန်းများစာရင်းကို လေ့လာခြင်းဖြင့် **Certificate** သင်တန်းများ၏ အရေအတွက်သည် **Diploma** သင်တန်းများထက် များပြားကြောင်း ယေဘုယျအားဖြင့် သိရှိနိုင်ပါသည်။ ၂၀၁၆ ခုနှစ်တွင် **Master of Business Administration(General)(University of Bedfordshire_UK),Master of Business Administration (Hospital & Health Services management) (UoB-UK),Master of Science(Public Health) (UoB_UK)**နှင့်**Master of Science (Nutrition & Dietetics) ( Mahidol University ,Thailand)Course** (၄)ခုကို တိုးချဲ့ဖွင့်လှစ်နိုင်ခဲ့ပါသည်။

၂၀၁၀ ခုနှစ်တွင်ဖွင့်လှစ်ခဲ့သော သင်တန်းများကိုလေ့လာကြည့်ပါက **Certificate** နှင့် **Diploma** သင်တန်းအရေအတွက်သည် ထက်ဝက်ကျော်ကွာခြားကြောင်း တွေ့ရပါသည်။ ကျောင်းသား အများစု သည် **Certificate** တက်ရောက်သော်လည်း **Diploma** သို့ ဆက်လက်တက်ရောက်မှု နည်းပါးကြောင်း တွေ့ရပါသည်။သို့သော် ၂၀၁၂ ၊၂၀၁၃၊ ၂၀၁၄၊ ၂၀၁၅၊ ၂၀၁၆ ခုနှစ်များကိုလေ့လာကြည့်ပါက ကျောင်းသားများသည် **Diploma** အဆင့်သို့ ဆက်လက်သင်ယူမှု များပြားကြောင်းတွေ့ ရှိရပြီး ထိုအချက်သည် **STIMU** ၏ အောင်မြင်မှုကို တစ်နည်းအားဖြင့် ဖော်ပြနေသည်ကို လေ့လာတွေ့ ရှိရပါသည်။

ဤ **graph** တွင်ပါဝင်သော **Specific Courses** ဆိုသည်မှာ **IELTS Preparation Course** ကဲ့သို့ **STIMU** ၏ အသိအမှတ်ပြုလက်မှတ်ပေးအပ်ခြင်းမရှိသော **Course** များကို ဆိုလိုပါသည်။

၄။ အကြံပေး, စီမံခန့်ခွဲရေး,သင်ကြားရေးတာဝန်ယူကြသူများစာရင်း

ပါမောက္ခဒေါက်တာဒေါ်လှမြင့် နှင့် ဆရာမကြီးဒေါ်လှကြူ နှင့် ဆရာကြီး ပါမောက္ခဒေါက်တာ **Thein Tan** တို့က Consultant အနေဖြင့် သင်ကြားရေးဆိုင်ရာ ကိစ္စရပ်များ ၊ စီမံခန့်ခွဲရေးဆိုင်ရာ ကိစ္စရပ်များကို ညွှန်ကြားပေးပါသည်။

## ၅။ ကျောင်းသား၊ကျောင်းသူဦးရေပြောင်းလဲမ




| | 2006 | 2007 | 2008 | 2009 | 2010 | 2011 | 2012 | 2013 | 2014 | 2015 | 2016 |
|---|---|---|---|---|---|---|---|---|---|---|---|
| Enrolled Students | 65 | 131 | 339 | 186 | 354 | 161 | 566 | 1535 | 2745 | 1972 | 1513 |

ကျောင်းသားကျောင်းသူအရေအတွက်သည် ၂၀၁၃ ခုနှစ် တွင် **NMDC** နှင့်ပူးပေါင်းဖွင့်လှစ်သည့်အချိန်မှစ၍ အခုန်တစ်ကိုက်တိုးလာခဲ့ပါသည်။ **STIMU** အနေဖြင့် ထိုပူးပေါင်းဖွင့်လှစ်မှု၏ တိုးတက်မှုကိုစောင့်ကြည့်ပြီး **value-added services** များထပ်မံထည့်သွင်းပေးနိုင်ရန် စဉ်းစားသင့်ပါသည်။

တစ်ဖန်ဖွင့်လှစ်သင်ကြားခဲ့သော ဘာသာရပ် သို့မဟုတ် သင်တန်းအရေအတွက်နှင့် တက်ရောက်သင်ကြားခဲ့သော ကျောင်းသား၊ကျောင်းသူအရေအတွက်ကို အောက်ပါအတိုင်းယှဉ်တွဲဖော်ပြထားပါသည်-




| | 2006 | 2007 | 2008 | 2009 | 2010 | 2011 | 2012 | 2013 | 2014 | 2015 | 2016 |
|---|---|---|---|---|---|---|---|---|---|---|---|
| completed | 0 | 138 | 31 | 150 | 145 | 253 | 121 | 204 | 1779 | 1157 | 1160 |

**Figure 4.** သင်တန်းပြီးဆုံးအောင်မြင်သွားသော ကျောင်းသားကျောင်းသူများစာရင်း




| | 2006 | 2007 | 2008 | 2009 | 2010 | 2011 | 2012 | 2013 | 2014 | 2015 | 2016 |
|---|---|---|---|---|---|---|---|---|---|---|---|
| Enrolled Students | 65 | 131 | 339 | 186 | 354 | 161 | 566 | 1535 | 2745 | 1972 | 1513 |
| completed | 0 | 138 | 31 | 150 | 145 | 253 | 121 | 204 | 1779 | 1157 | 1160 |

**Figure 5.** သင်တန်းတက်ရောက်မှုနှင့် သင်တန်းပြီးဆုံးအောင်မြင်မှု နှိုင်းယှဉ်ပြဇယား

## ၆။ တက္ကသိုလ်ကျောင်းကောင်စီ

**STI MU Student Council** ကို ၂၀၀၄ ခုနှစ် ၊ ဩဂုတ်လ(၂၂) ရက်နေ့ အစည်းအဝေးဆုံးဖြတ်ချက်ဖြင့် စတင်ဖွဲ့စည်းခဲ့ပါသည်။ ပထမဆုံးအကြိမ် Student Council campaign and election ကို ၂၀၀၄ခုနှစ်

## ၆။ တက္ကသိုလ်ကျောင်းကောင်စီ

STI MU Student Council ကို ၂၀၀၄ ခုနှစ် ၊ ဩဂုတ်လ(၂၂) ရက်နေ့ အစည်းအဝေးဆုံးဖြတ်ချက်ဖြင့် စတင်ဖွဲ့စည်းခဲ့ပါသည်။ ပထမဆုံးအကြိမ် Student Council campaign and election ကို ၂၀၀၄ ခုနှစ် စက်တင်ဘာ လ (၉) ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့ပြီး တက္ကသိုလ်ကျောင်းကောင်စီ ကတိသစ္စာခံယူပွဲအခမ်းအနား (University Student Council Inauguration Ceremony) ကို ၂၀၀၄ခုနှစ် စက်တင်ဘာ လ ၁၀ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့ပါသည်။ Student Council ၏သက်တမ်းမှာ ပြက္ခဒိန်နှစ် တစ်နှစ်ဖြစ်ပြီး USC advisor များ၊ ဆရာ၊ဆရာမများနှင့် ကျောင်းသား၊ကျောင်းသူများက မဲပေးရွေးချယ်ခဲ့ကြပါသည်။ ဒုတိယအကြိမ်မြောက် Student Council Campaign and Election ကို မေလ ၅ ရက် တွင် ကျင်းပပြုလုပ်ခဲ့ပါသည်။ ဒုတိယအကြိမ်မြောက်တက္ကသိုလ်ကျောင်းကောင်စီကတိသစ္စာခံယူပွဲ အခမ်းအနားကို ၂၀၀၅ခုနှစ် မေ လ ၈ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့ပါသည်။ Student Council Election တွင် ရွေးချယ်ခံရသောပုဂ္ဂိုလ်များနှင့် USC Advisors များ၊ တာဝန်ရှိသူများ စာရင်းကို နောက်ဆက်တွဲယေား (၁-က) နှင့် (၁-ခ) (၁-ဂ) (၁-ဃ) တို့တွင်နှစ်အလိုက် ဖော်ပြထားပါသည်။တတိယအကြိမ်မြောက် (၂၀၀၆-၂၀၀၇)ပညာသင်နှစ် Student Council Campaign and election ကို မေလ(၃၀)ရက်နေ့တွင်USC advisor များ၊ ဆရာ၊ဆရာမများနှင့် ကျောင်းသား၊ကျောင်းသူများက မဲပေးရွေးချယ်ခဲ့ကြပါသည်။ တတိယအကြိမ်မြောက် Student Council Campaign and Election ကို ၂၀၀၆ခုနှစ် မေ လ ၃၀ ရက် တွင် ကျင်းပပြုလုပ်ခဲ့ပါသည်။

**STI MU Student Council ဖွဲ့စည်းခြင်း ၏ရည်ရွယ်ချက်-**

တက္ကသိုလ်ကျောင်းကောင်စီသည် ကျောင်းသား/ကျောင်းသူများ၏ ခေါင်းဆောင်မှုကို လေ့ကျင့်ပေးရန်၊ တက္ကသိုလ်၏လှုပ်ရှားဆောင်ရွက်မှုများတွင် ပါဝင်ဆောင်ရွက်ရန်၊ ဦးဆောင်ဦးရွက်ပြုနိုင်မှုနှင့် အချင်းချင်း ချစ်ခင်ရင်းနှီးမှုများကို အခွန့်ရှည်စွာထိန်းသိမ်းပြီး မြှင့်တင်နိုင်ရန် ရည်ရွယ်၍ဖွဲ့စည်းပါသည်။

တက္ကသိုလ်ကျောင်းကောင်စီ၏ရည်မှန်းချက်များမှာ-

(၁) တက္ကသိုလ်၏လှုပ်ရှားဆောင်ရွက်မှုများတွင် ကျောင်းသား/ကျောင်းသူများ ပါဝင်ဆောင်ရွက်နိုင်ရန်အတွက် တွန်းအားပေးရန်။

(၂) မိမိတက္ကသိုလ်အပေါ်သစ္စာရှိပြီးမိမိတက္ကသိုလ်၏ဂုဏ်ကိုမြှင့်တင်ရန်။

(၃) ကျောင်းသားများနှင့် သက်ဆိုင်သည့် လှုပ်ရှားဆောင်ရွက်မှုများတွင် ပူးပေါင်းပါဝင်ညှိနှိုင်းဆောင်ရွက်ရန်။

(၄) ဆရာ၊ဆရာမများနှင့် ကျောင်းသား/သူများအကြား ကောင်းမွန်သော ဆက်ဆံရေးများ ဖန်တီး တည်ဆောက်ရန်။

(၅) တက္ကသိုလ်၏ အုပ်ချုပ်မှုအခန်းကဏ္ဍတွင် ကျောင်းသားကျောင်းသူများ၏ အခန်းကဏ္ဍကို နားလည်လက်ခံနိုင်ရန်အတွက် ကူညီဆောင်ရွက်ပေးရန်၊

(၆) ကျောင်းသား/ကျောင်းသူတစ်ဦးချင်းစီ၏ အပြုအမူ၊လုပ်ကိုင်ဆောင်ရွက်မှု၊ တာဝန်ယူမှု၊တာဝန်ခံမှုများ တိုးပွားလာစေရန်အတွက် ဆောင်ရွက်ရန်၊

(၇) ကျောင်းသား/သူများ၏ လိုအပ်ချက် ၊ အခက်အခဲများ၊ သည်းခံနိုင်မှုများကို ဖော်ထုတ်ရန်၊

(၈) ကျောင်းသား/သူများ အချင်းချင်း ရင်းနှီးချစ်ခင်စွာဖြင့် တစ်စိတ်တစ်ဝမ်းတည်းစိတ်ဓာတ်မွေးမြူရန်၊

(၉) ကျောင်းသား/သူ တစ်ဦးချင်းစီတွင် လူမှုရေးအရ ရင့်ကျက်မှုနှင့် မိမိကိုယ်မိမိ ယုံကြည်မှုများ တိုးပွားအောင် ဆောင်ရွက်ရန်၊

(၁၀) ကျောင်းသားထုနှင့် ကျောင်း၏ အုပ်ချုပ်သူများကြားတွင် ကျောင်းကောင်စီက ညှိနှိုင်းဆောင်ရွက်ပေးရန်၊ ကျောင်းသား/သူများအချင်းချင်း၊ ဆရာ၊ဆရာမများနှင့် ကျောင်းဝန်ထမ်းများကြားတွင် မတူကွဲပြားမှုများ ကြားမှ အများနှုတ်သဘောနှင့် အညီပေါင်းစည်းဆောင်ရွက်နိုင်ရန် အတွက် တွန်းအားပေးရန်နှင့် အများကလက်မခံနိုင်သည့် ကိစ္စရပ်များကို ဖယ်ရှားရန်၊

(၁၁) တက္ကသိုလ်၏ အုပ်ချုပ်မှုအပိုင်းများတွင် ကျောင်းသား/သူများသည် တက္ကသိုလ်ကျောင်းကောင်စီက တစ်ဆင့် ပြောရေးဆိုခွင့်များရှိနိုင်ရန် ရည်မှန်းပါသည်၊

## လုပ်ရှားဆောင်ရွက်မှုများနှင့်ပဟာဗျူဟာများ-

(၁) ကျောင်းသားသစ်များအားမိတ်ဆက်ခြင်းအစီအစဉ်များ

(၂) လူမှုရေးကော်မီများတွင် အချင်းချင်းရိုင်းပင်းကူညီဆောင်ရွက်ခြင်း၊

(၃) ဗဟုသုတနှင့်ပတ်သက်သည့်ဖျော်ဖြေရေးပွဲများ

(၄) ပညာရေးနှင့်ပတ်သက်သည့်ပြိုင်ပွဲများ

(၅) Seminar နှင့် workshop များကျင်းပခြင်း၊

(၆) ခေါင်းဆောင်မှုကိုလေ့ကျင့်ပျိုးထောင်ပေးခြင်း၊

(၇) အနုပညာနှင့်ပတ်သက်သည့်ပြိုင်ပွဲများ

(၈) ပညာရေးနှင့်ပတ်သက်သည့်(Field Trips/Plant Tour/Business Tour) များတွင်ပါဝင်ဆောင်ရွက်ခြင်း၊

(၉) လူမှုပတ်ဝန်းကျင်တွင်ဝင်ဆံ့နိုင်စေရန် ပြည်သူ့အကျိုးပြုလုပ်ငန်းများဆောင်ရွက်ခြင်း(tree planting, business talk, computer literacy and others)၊

(၁၀) ခြည်းကမ်းမဲ့အမှိုက်စွန့်ပစ်ခြင်းကိုရှောင်ကြဉ်ရန် အသိပညာပေးလုပ်ငန်းများဆောင်ရွက်ခြင်း၊

(၁၁) ကျောင်းကောင်စီရွေးကောက်ပွဲများ ကျင်းပခြင်း စသည်တို့ဆောင်ရွက်ရန်ဖြစ်ပါသည်။

STI MU Student Council ၏ ဆောင်ပုဒ်မှာ" Moving Forward in Unity and Excellence" ဖြစ်ပါသည်။

STI MU ၏ Logo မှာ-

STI MU Student Council တို့ President, Vice-president , Secretary (1), Secretary(2) , Treasurer (1), Treasurer (2) နှင့် Committee Chairperson (၅) ဦး နှင့် ကော်မတီအဖွဲ့ဝင်များဖြင့် ဖွဲ့စည်းထားရှိပါသည်။ STI MU Student Council Committee (၅) ရပ်ရှိပါသည်။ ၎င်းတို့မှာ- ပညာရေးကော်မတီ၊ သတင်းဖြန့်ချိရေးကော်မတီ ၊စည်းကမ်းထိန်းသိမ်းရေးကော်မတီ၊ ဘဏ္ဍာရေးကော်မတီ၊ လူမှုရေးနှင့်ဖျော်ဖြေရေးကော်မတီ ဟူ၍ဖွဲ့စည်းထားရှိပြီး ကော်မတီအသီးသီးတွင် အဖွဲ့ဝင်များကို နှစ်ခြင် တိုးချဲ့ ဖွဲ့စည်းလျက်ရှိပါသည်။

စာသင်ခန်းများတွင်သင်ကြားရရှုများနှင့်လက်တွေ့ လုပ်ငန်းခွင်များ ဆက်စပ်သုံးသပ်နိုင်ရန်၊ မိမိတို့ ကိုယ်ပိုင်လုပ်ငန်းများထူထောင်ရာတွင် အထောက်အကူဖြစ်စေရန်၊ ဆရာ ဆရာမများနှင့် ကျောင်းသား၊ ကျောင်းသူများပိုမိုရင်းနှီးလေးစားမှုရှိစေရန်လုပ်ငန်းခွင်လေ့လာရေးခရီးစဉ်များကို ၂၀၁၆ ခုနှစ်တွင်လည်း ယခင်နှစ်များနည်းတူ စီစဉ်ပို့ ဆောင်နိုင်ခဲ့ပါသည်။



Daw Hla Kyu, Daw Khin Aye Win, Dr. Daw Myo Myo Naing, Prof. Daw Myat Myat Thu
STIMU Student Council Advisors
Daw Khine Khine Mynn
Focal Person
Edu: Committee Advisors
Prof. DawMyatMyat Thu
Daw Aye AyeMyint
U ZawKoKo
Info: Committee Advisors
Dr. LwinNandarShwe
Daw Aye Aye Myint
DawThandar Aung
Dr. SeintSeintOoLwin
Discipline Committee Advisors
Prof. Dr. U Thein Tan
DawHtetHtet Win
Daw Zin ZinOo
Finance Committee Advisors
DawKhin Yi Yi San
DawLwinLwin Aye
Daw Chaw Su Su Aye
DawHnin Su SuMaung
Social & Entertain: Committee Advisors
DawSandarOo
DawSandarMyint
Daw Thu ZarTun
Daw Aye ThandarOo
Mg Myo Min Htet
President
Mg Tin Sann Oo
Vice President
Mg Oak Hein Thu
Secretary - 1
Mg David Khua Peng Lian
Secretary - 2
Mg Aung PyaePhyo
Treasurer - 1
Ma Han Thu ThuHtet
Treasurer - 2
Edu: Committee Chair
Mg Paing Moe Thet
Info: Committee Chair
Mg Zin Wai Soe Din
Discipline Committee Chair
Mg KhantZawHtet
Finance Committee Chair
Mg Ye Lin Naung
Social & Entertain: Committee Chair
Ma Shwe Yu Par
Education Executive Committee Member
1. Mg Sai HtooAung(E)
2. Ma HtetThandarEi(E)
3. Mg Thant NaingTun(B)
4. Ma May Myat Thu Khaing(B)
5.Mg Htet Phone Lin(E)
Information Executive Committee Member
1.Ma Saung Nandi Naing(B)
2. Ma San YathawNaing(E)
3. Mg Soe Lynn Kyaw(E)
4.Mg AungKyawPhyoe(E)
5.Ma May Phyo Tha (B)
Discipline Executive Committee Member
1.Ma Aye ThetMaw(B)
2.Ma Khin Ye YintKyawMyint(E)
3.Mg HtooMyatAung(B)
4.Mg Aung KhantMin(B)
5.Mg Aung Thant(E)
Finance Executive Committee Member
1.Ma HtooHtooKo(B)
2. Ma Thin MyatThandar(B)
3. Ma Shun Lei Wut Yi Aung(B)
4. Ma EiYadanarKyaw(E)
5. Ma Lin WathanOo(E)
Social and Entertain : Executive Committee Member
1. Ma Su ThetYadanar Nay Win(B)
2. Mg Hein HtetAung(B)
3. Mg Min Tun D-Par(B)
4. Ma Moe HtoikHtoikMaung(E)
5. Mg KaungMyint Mo Lwin(E)
EducationCommitteeMember
Engineering& BusinessStudents
Information Committee Member
Engineering& BusinessStudents
Discipline Committee Member
Engineering& BusinessStudents
Finance Committee Member
Engineering& BusinessStudents
Social and Entertain :Committee Member
Engineering& BusinessStudents

ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ကြို့ကုန်းအရှေ့ရပ်ကွက်၊
မဟာသုခိတာလမ်း အမှတ်-၆၀၅ မြေတိုင်းရပ်ကွက်၊
၆ဒီ(၁၄၊၁၅၊၁၆)၊ မြေကွက်အမှတ် (၃၃၄/B ) ရှိ
မြေ (၀. ၁၁၄) ဧက အား

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ

ပညာရေးဝန်ဆောင်မှု
လုပ်ငန်းအားဆောင်ရွက်ရန်အတွက်

မြေပိုင်ရှင် ဒေါ်ခင်အေးဝင်း (၁၂/ပသတ(နိုင်)၀၀၂၁၉၇)

နှင့်

ဒေါ်မျိုးမျိုးနိုင် (၁၂/လမန(နိုင်) ၀၆၂၁၂၇)
ဒါရိုက်တာ၊ Scinence and Tech International Myanmar University Co.,Ltd

တို့အကြား

မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)

# မြေငှားရမ်းခြင်းသဘောတူစာချုပ်

ဤမြေငှားရမ်းခြင်း သဘောတူစာချုပ် (နောင်တွင် အငှားစာချုပ်တွင် ခေါ်တွင်စေရမည်)ကို ခုနှစ်၊ _______________လ၊ (        )ရက်နေ့တွင် _______________မြို့၌အောက်ပါ အတိုင်း ပြုလုပ်ချုပ်ဆိုကြသည်မှာ

မြေအမည်ပေါက် ပိုင်ဆိုင်သော အမှတ် (၈၃/က-၈၁/ဃ) တွင်နေထိုင်သည့် အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လမန(နိုင်)၀၆၂၁၂၇ ကိုင်ဆောင်သူ ဒေါ်မျိုးမျိုးနိုင်သည်(နောင်တွင် အငှားချထားသူဟုခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် ၎င်းကိုယ်တိုင်နှင့် ၎င်းအမွေဆက်ခံသူများ၊ ဥပဒေအရခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟုမှတ်ယူရမည်) ကတစ်ဘက်၊

နှင့်

အမှတ် (၄)၊ အခန်းအမှတ်(၇)မြန်မာအင်ဖိုတက်၊လှိုင်မြို့နယ် ရန်ကုန်တိုင်းဒေသကြီးတွင် တည်ရှိသော မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် Science and Tech International Myanmar University Co.Ltd (နောင်တွင် အငှားချထားခြင်းခံရသူဟုခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် ၎င်းကိုယ်တိုင်နှင့် ၎င်းအမွေဆက်ခံ သူများ၊ ဥပဒေအရခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟုမှတ်ယူရ မည်)က တစ်ဘက်၊ တို့သည်အောက်ပါအတိုင်း စာချုပ်ချုပ်ဆိုကြပါသည်။

**<u>အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း။</u>**

၁။ အငှားချထားသူသည် နောက်ဆက်တွဲများနှင့် အသေးစိတ်ဖော်ပြထားသော အငှားချထားသည့် **မြေကွက်အမှတ် (၃၃၄/B)** ၊ **မြေတိုင်းရပ်ကွက် ၆ဒီ (၁၄၊ ၁၅၊၁၆)** ရှိသည့် **ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊မဟာသုခိတာလမ်း၊အမှတ် -၆၀၅ ရှိ**၊ မြေ (၀. ၁၁၄) ကေအား ဥပဒေ အရ တရားဝင်ပိုင် ဆိုင် ခွင့်ရှိသူဖြစ်ကြောင်း အာမခံပါသည်။

၂။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်ကြောင်းအာမခံပါသည်။

၃။ အငှားချထားသူ နှင့် အငှားချထားခြင်းခံရသူတို့သည် စာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာ ရှိကြသူများဖြစ်ကြောင်း အသီးသီးအာမခံပါသည်။

<u>အငှားချထားသည့် မြေတည်နေရာနှင့် ငှားရမ်းသက်တမ်း။</u>

၄။ အငှားချထားသည့် မြေတည်နေရာနှင့် ငှားရမ်းသက်တမ်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(၁) မြေတည်နေရာ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ ကြို့ကုန်း အရှေ့ရပ်ကွက်၊မဟာသုခိတာလမ်း၊အမှတ် -၆၀၅၊မြေကွက်အမှတ် (၃၃၄/B) ၊ မြေတိုင်းရပ်ကွက် ၆ဒီ (၁၄၊ ၁၅၊၁၆)ရှိ၊ မြေ (၀. ၁၁၄) ဧက ဖြစ်ပြီးမြေပုံနှင့် ပိုင်ဆိုင်မှု အထောက်အထားကို ပူးတွဲတင်ပြထားပါသည်။

(၂) ငှားရမ်းခြင်းသက်တမ်း ကနဦး (နှစ် - ၃၀) နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ခွင့်ပြုချက်ဖြင့် တစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် တစ်ဆက်စပ်တည်းသက်တမ်း (နှစ်) ကြိမ်အထိ တိုးမြှင့်ခွင့်။

(၃) ဆောင်ရွက်ရမည့်လုပ်ငန်းများ ပညာရေးဝန်ဆောင်မှုလုပ်ငန်း

(၄) ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာငွေကျပ်သန်း ________________နှင့် နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ _____________________ သန်း။

## ငှားရမ်းခနှုန်းထားနှင့် ငွေပေးချေခြင်းနည်းလမ်း။

၅။ အငှားချထားခြင်းခံရသူသည် အပိုဒ် (၄) ပါ မြေ (၀. ၁၁၄) ဧက (၄၆၇. ၈၈ - စတုရန်းမီတာ) အတွက် ငှားရမ်းခကို အောက်ပါအတိုင်း ပေးဆောင်ရပါမည်။

(က) နှစ်စဉ်မြေငှားရမ်းခကို တစ်နှစ်လျှင် တစ်စတုရန်းမီတာလျှင် ကျပ် ၄,၇၂၅. ၀၀ နှုန်းဖြင့် စုစုပေါင်း (၀. ၁၁၄) ဧက (၄၆၇. ၈၈ - စတုရန်းမီတာ) အတွက် တစ်နှစ် (ကျပ် ၂,၂၁၀,၇၃၃. ၅၀) လျှင် (ကျပ်သိန်းတစ်ထောင့်ခုနှစ်ရာရှစ်ဆယ့်ငါးသိန်းကိုးသောင်းသုံးထောင်ကိုးရာလေးဆယ့်သုံးနှင့် ငါးဆယ်ပြား တိတိ) ပေးချေရန် သဘောတူပါသည်။

(ခ) နှစ်စဉ်မြေငှားရမ်းကိုသက်ဆိုင်ရာနှစ်၏ ပထမ (၁၀) ရက်အတွင်းပေးချေရန်ဖြစ်ပြီး ကျော်လွန်သည့် တစ်ရက်လျှင်ပေးချေရမည့်ငွေ၏ (၁၀ ရာခိုင်နှုန်း) နှင့် ညီမျှသောငွေကို ဒဏ်ကြေးအဖြစ် အငှားချထားခြင်း ခံရသူက ပေးဆောင်ရမည်။

(ဂ) မြေငှားရမ်းခကို (၅) နှစ် (၁) တစ်ကြိမ်၊ နှစ်ဖက်ပြန်လည် ညှိနှိုင်း၊ သုံးသပ်ရမည်။ အကယ်၍ငှားရမ်းခ ထပ်မံတိုးမြှင့်မည့်ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ (၅%) ထက်မကျော်လွန်စေရ။

## အငှားချထားခြင်းခံရသူ၏တာဝန်နှင့် အခွင့်အရေးများ

၆။ အငှားချထားခြင်းခရသူသည် အောက်ပါစည်းကမ်းများအား လိုက်နာဆောင်ရွက်ရမည် ဖြစ်ပါသည်။

(က) အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားပြီး၊ အငှားချထားသူက သဘောတူကာ မြန်မာနိုင်ငံရင်းနှီးထံမှ ခွင့်ပြုချက်ရရှိသည့် စာချုပ်ပါလုပ်ငန်းများသာ ဆောင်ရွက်ခွင့်ရှိပြီး

ပြောင်းလဲပြင်ဆင်ဆောက်လုပ်လိုပါက အငှားချထားသူ၏ သဘောတူညီချက်ဖြင့် မြန်မာနိုင်ငံ ရင်းနှီးထံမှ ခွင့်ပြုချက်ရရှိပြီးမှသာ ပြောင်းလဲပြင်ဆင် ဆောင်ရွက်ခွင့်ရှိသည်။

(ခ) အငှားချထားခြင်းခံရသူသည် အငှားချထားစဉ်ကာလအတွင်း ယင်းမြေ၏လုပ်ငန်းတစ်ခုလုံးကို ဖြစ်စေ၊ တစ်စိတ်တဒေသကိုဖြစ်စေ ထပ်ဆင့်အငှားချထားခြင်း၊ ထုခွဲရောင်းချခြင်း၊ တနည်းနည်းဖြင့် တပ်ဆင့်လွှဲပြောင်းခြင်းကို အငှားချထားသူ၏ သဘောတူညီချက်မရရှိဘဲ မပြုလုပ်ရ။

(ဂ) ငှားရမ်းသည့်အချိန်ကာလအတွင်း မြေပေါ်တွင်တည်ဆောက်မည့် အဆောက်အဦများအတွက် မီးအာမခံနှင့် အခြားလိုအပ်သောအာမခံများကို မြန်မာ့အာမခံဥပဒေအရထားရှိရန်၊ အငှားချထားခြင်းခံရသူက တာဝန်ယူရမည်။

(ဃ) အငှားချထားခြင်းကိစ္စနှင့်စပ်လျဉ်း၍ မြေခွန်မှအပ အခြားစည်ပင်သာယာခွန် အပါအဝင် လုပ်ငန်းဆောင်ရွက်ရမှုနှင့် သက်ဆိုင်သော အခွန်အခအားလုံးကို အချိန်မှန်မှန်ပေးသွင်းရမည်။

(င) အငှားချထားခြင်းခံရသူက လုပ်ငန်းဆောင်ရွက်မှုဆိုင်ရာ ဝင်ငွေစာရင်းအင်းများကို စနစ်တကျ ထားရှိရမည်။

(စ) နိုင်ငံတော်မှချမှတ်ထားသော မူဝါဒများကိုလိုက်နာ၍ တရားဥပဒေနှင့်ငြိစွန်းသော လုပ်ငန်းရပ်များအား လုပ်ဆောင်ခြင်းမှ ဆောင်ကြဉ်ရမည်။

(ဆ) မြေငှားစာချုပ်ကို စာချုပ်စာတမ်းမှတ်ပုံတင်ဥပဒေနှင့် တံဆိပ်ခေါင်းခွန်ဥပဒေတို့အရ မှတ်ပုံတင်ရန်ကျသင့်သည့်တံဆိပ်ခေါင်းခွန်နှင့် အခကြေးငွေများကျခံဆောင်ရွက်ရမည်။

## အငှားချထားသူ၏တာဝန်များ။

၇။ အငှားချထားသူသည် အောက်ပါစည်းကမ်းများအား လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်။

(က) အငှားချထားသူသည် ငှားရမ်းသည့်မြေခွန်ကိုဆောင်ရွက်ရမည်။

(ခ) အငှားချထားသူသည် စာချုပ်ပါရည်ရွယ်ချက်အတွက် အငှားချထားသူလိုအပ်သော ခွင့်ပြုချက်များအားရရှိရေးအတွက် လိုအပ်သည့် ကူညီထောက်ပံ့မှုများကို ပေးရမည်။

(ဂ) အငှားချထားခြင်းခံရသူအနေဖြင့် အငှားချထားစဉ်ကာလအတွင်း မြေကိုငြိမ်းချမ်းစွာနှင့် အေးဆေးစွာအသုံးပြုခွင့်ပေးရမည်။

## မြေနှင့်အဆောက်အဦ လွှဲပြောင်းပေးအပ်ခြင်း။

၈။ ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းသက်တမ်း ကုန်ဆုံးသည့်အခါ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါ အငှားချထားခြင်းခံရသူက အငှားချထားသည့်မြေနှင့် ယင်းမြေပေါ်ရှိ အငှားချထားခြင်းခံရသူမှ စိုက်ပျိုးပေးထားသော အပင်များ၊ ဆောက်လုပ်ထားသောအဆောက်အဦများအားလုံးအား မည်သည့်အဖိုးစားနားမျှ မပါရှိဘဲ အငှားချထားသူသို့ ကောင်းမွန်သော အနေအထားအတိုင်း ပြန်လည်လွှဲပြောင်းပေးအပ်ခြင်းပြုရမည်။

သို့ရာတွင် မြေနှင့်အဆောက်အဦးပေါ်တွင် အငှားချထားခြင်းခံရသူမှ ဆောက်လုပ်ခဲ့သည့် အဆောက်အဦတွင် တပ်ဆင်ထားသည့်ပစ္စည်းများ (Fixture) မှအပ ကျန်ရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများအားလုံးကို အငှားချထားခြင်းခံရသူမှ ယူဆောင်သွားခြင်းပြုနိုင်သည်။

**စာချုပ်သက်တမ်းတိုးခြင်း။**

၉။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းတိုးမြင့်လိုပါက ကနဦးသက်တမ်း မကုန်ဆုံးမီအနည်းဆုံး (၃) လ ကြိုတင်၍ အငှားချထားသူသို့စာဖြင့် အကြောင်းကြားတင်ပြရမည်။ ကနဦးနှစ် (၃၀) နှစ် ငှားရမ်းပြီး နှစ်ဖက်သဘောတူညီရရှိပြီးပါက တစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် သက်တမ်း (၂) ကြိမ် အထိ စာချုပ်သက်တမ်းတိုးမြင့်နိုင်သည်။ သက်တမ်းတိုးမြင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက် ရရှိမှသာ အတည်ဖြစ်စေရမည်။

**စာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်။**

၁၀။ ဤစာချုပ်သည် အငှားချထားသူနှင့် အငှားထားခြင်းခံရသူတို့ တရားဝင်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း။**

၁၁။ ဤမြေငှားစာချုပ်မှ အငြင်းပွားမှုပေါ်လာပါက ထိုအငြင်းပွားမှုကို နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းစွာညှိနှိုင်းဖြေရှင်းကြရမည်။ ဤကဲ့သို့ညှိနှိုင်းဖြေရှင်း၍မရပါက မြန်မာနိုင်ငံ အငြင်းပွားမှုဥပဒေ (၂၀၁၆) နှင့်အညီ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏အဆုံးအဖြတ်ကို ခံယူရမည်။

**စာချုပ်ရပ်စဲခြင်း။**

၁၂။ ဤစာချုပ်ကို ချုပ်ဆိုသူများသည် အောက်ဖော်ပြပါ အကြောင်းအချင်းရာ တစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင် စာချုပ်ကိုရပ်စဲခွင့်ရှိစေရမည်။

(က) ပဋိညာဉ်စာချုပ်ပါ အဓိကတာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က ဆောင်ရွက်ရန်ပျက်ကွက်ခြင်း။

(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်သည် တစ်ဆက်တည်း (၆)လ ကြာမြင့်ခြင်း။

(ဂ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း။

(ဃ) နှစ်ဖက်သဘောတူ စာချုပ်ရပ်စဲခြင်း။

(င) ဤစာချုပ်ချုပ်ဆိုသူများ၏ လုပ်ငန်းရပ်စဲလိုခြင်း စာဖြင့်ရေးသားတင်ပြချက်သည် မြန်မာနိုင်ငံ

ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးနောက်မှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

(စ) အထက်ဖော်ပြပါအကြောင်းရာများကြောင့် စာချုပ်ရပ်စဲသည့်အခါ စာချုပ်ရပ်စဲပြီး နောက် (၃)လအတွင်း မြေနှင့်တကွ မြေပေါ်ရှိအဆောက်အဦ၊ တပ်ဆင်ထားသော ပစ္စည်းများအပါအဝင် အားလုံးတို့ကို (ရွှေ့ပြောင်းနိုင်သောပစ္စည်းမှ လွဲ၍) အငှား ချထားခြင်းခံရသူက အငှားချထားသူတို့အဖိုးစားနားမဲ့ဖြင့် ပြန်လည်ပေးအပ်ရမည်။

## စာချုပ်ပြင်ဆင်ခြင်း။

၁၃။ လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေများ (သို့မဟုတ်) စည်းကမ်းချက်များသည် ဤသဘောတူစာချုပ် စည်းကမ်းချက်များနှင့် ကိုက်ညီမှုမရှိဘဲ ပြင်ဆင်၊ ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ကို နှစ်ဦးသဘောတူစာဖြင့် ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုသို့ပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်က သဘောတူမှသာလျှင် အတည်ဖြစ်စေရမည်။

## ဓါတ်သတ္တုအရင်းမြစ်များနှင့် ရတနာများ။

၁၄။ ဤစာချုပ်၏ သက်တမ်းကာလအတွင်း ငှားရမ်းထားသောမြေ၏ မြေပေါ်မြေအောက်အတွင်းမှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းမြစ်များ၊ ကျောက်မျက်ရတနာများနှင့် သဘာဝသယံဇာတများ၊ ရှေးဟောင်းပစ္စည်းများ အစရှိသည်တို့ကို တွေ့ရှိလျှင် သက်ဆိုင်ရာ မြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ ချက်ခြင်းအကြောင်းကြား၊ တင်ပြပေးရမည်။

## မလွန်ဆန်နိုင်သောဖြစ်ရပ်များ။

၁၅။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျှောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များ၊ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။ ထို့သို့မလွန်ဆန်နိုင်သောဖြစ်ရပ်များ ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်များဖြစ်ပေါ်သည့် အချိန်မှ (၁၀) ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ခြင်းစာဖြင့်ရေးသားအကြောင်း ကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး မြေအသုံးပြုခွင့် နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

ဝန်ထမ်းများခန့်ထားခြင်း။

၁၆။ အငှားချထားခြင်းခံရသူသည် လိုအပ်သောဝန်ထမ်းများကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံဥပဒေများ နှင့် အညီခန့်ထားပြီး၊ ယင်းတို့၏ လစာများ၊ အခကြေးငွေများ၊ ခရီးစရိတ်များ၊ အခွင့်အရေးများကို ဥပဒေ ပြဋ္ဌာန်းချက်များနှင့် အညီခွင့်ပြုသွားရမည်။ နိုင်ငံခြားသားဝန်ထမ်းများကို ခန့်ထားရာတွင် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ကို ကြိုတင်ရယူရမည်။ နိုင်ငံခြားသားဝန်ထမ်းများ၊ ယင်းတို့၏မိသားစု များသည် မြန်မာနိုင်ငံတွင်နေထိုင်စဉ်မြန်မာနိုင်ငံ၏ ဥပဒေများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် အငှားချထားခြင်းခံရသူမှ တာဝန်ယူရမည်။

**ကင်းလွတ်ခွင့်နှင့် လက်သာခွင့်များ။**

၁၇။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်များ၊ အကောက် အခွန်ကင်းလွတ်ခွင့်များနှင့် အခြားသက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခံစားခွင့်ရရှိစေရန် အငှားချထားသူက ကူညီဆောင်ရွက်ပေးရမည်။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း။**

၁၈။ အငှားချထားခြင်းခံရသူသည် စွန့်ပစ်ပစ္စည်းများကို စနစ်တကျစွန့်ပစ်ရန်၊ ရေဆိုးများသန့်စင်စေရန် စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို အစီအမံပြုလိုက်ထားရမည်။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

**စာပေးစာယူပြုလုပ်ရန်ကိစ္စ။**

၁၉။ စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာ (သို့မဟုတ်) အင်္ဂလိပ်ဘာသာဖြင့် ရေးသား၍ မှတ်ပုံတင် စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့်ပို့ခြင်း၊ အီးမေးလ်၊ ဖက်စ်ဖြင့်ပို့ခြင်းတို့ကို အသုံးပြု၍ အောက်ပါလိပ်စာအတိုင်း အချင်းချင်းဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်းအသိပေးအကြောင်းကြားရမည်။

(က) ဒေါ်ခင်အေးဝင်း

အမှတ် (၃၆/အေ)၊ ပြည်လမ်း၊ ၇မိုင်ခွဲ၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ခ) ဒေါ်မျိုးမျိုးနိုင်

ဒါရိုက်တာ၊ Science and Tech International Myanmar University Co.,Ltd.

အမှတ် (၆၈/၁-ခ)၊ ဦးမောင်မောင်ခြံလမ်း၊ (၁၀) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

**မြေသို့ပြန်လည်ဝင်ရောက်ခွင့်။**

၂၀။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် အငှားချထားသူက ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် အငှားချထားခြင်းခံရသူသည် အကြောင်းကြားစာပို့ပြီးနောက် (၁၄) ရက်အတွင်းလိုက်နာမှု မရှိပါက အငှားချထားခြင်းခံရသူသည် အငှားချထားသည် မြေနှင့် အဆောက်အဦများကို ပြန်လည်ဝင်ရောက် လက်ရောက်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရယူထံမှ ရရန်ရှိသော ငှားရမ်းခ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

**အာမခံထားခြင်း။**

၁။ အငှားချထားခြင်းခံရသူသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ မြန်မာ့အာမခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုအပ်သော အမျိုးအစားအားလုံး အာမခံထားရမည်။

**အထွေထွေ။**

၂၂။ ဤစာချုပ်တွင်ပါရှိသည့် မြေပုံ၊ မြေရာဇဝင်စာရွက်စာတမ်း၊ အဆောက်အဦပုံစံများ၊ ထောကအထားများသည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်ပါသည်။

၂၃။ စာချုပ်ဝင်အဖွဲ့အစည်းတစ်ခုက ဤစာချုပ်ပါ အခွင့်အရေး၊ အာဏာသို့မဟုတ် အလျော်ဒဏ်ခံခွင့် တစ်ရပ်ကို မကျင့်သုံးခြင်းသည် အဆိုပါသို့မဟုတ် အခြားအခွင့်အရေး၊ အာဏာသို့မဟုတ် အလျော်ဒဏ်ခံခွင့် တစ်ရပ်ကို စွန့်လွှတ်ပြီးဖြစ်သည်ဟုမမှတ်ယူရ။

**လက်မှတ်ရေးထိုးခြင်း။**

၂၄။ အထက်စာချုပ်ပါအချက်အလက်များကို "အငှားချထားသူ" နှင့် "အငှားယူခြင်းခံရသူ" တို့မှ သေချာစွာ ဖတ်ရှုနားလည်သပေါက်လျက် နှစ်ဦးနှစ်ဖက် သဘောတူလက်ခံပါသဖြင့် မိမိတို့၏ လွတ်လပ်သောစိတ်ဆန္ဒ

နှင့်အညီ အောက်ပါအသိသက်သေများရှေ့မှောက်တွင် ၂၀ ခုနှစ်၊ လ၊ ( )ရက်နေ့၌ သဘောတူလက်မှတ်ရေးထိုးကြပါသည်။

**အငှားထားသူ**

ကိုယ်စား

**အငှားချထားခြင်းခံရသူ**

Science and Tech International Myanmar University Co.,Ltd. ကိုယ်စား

| | |
|---|---|
| လက်မှတ် | ________________ |
| အမည် | ဒေါ်ခင်အေးဝင်း |
| မှတ်ပုံတင်အမှတ် | (၁၂/ပဘတ(နိုင်)၀၀၂၁၉၇) |
| လိပ်စာ | အမှတ် (၃၆/အေ)၊ ပြည်လမ်း၊ (၇)မိုင်ခွဲ၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

| | |
|---|---|
| လက်မှတ် | ________________ |
| အမည် | ဒေါ်မျိုးမျိုးနိုင် |
| မှတ်ပုံတင်အမှတ် | (၁၂/လမန(နိုင်) ၀၆၂၀၂၇) |
| လိပ်စာ | အမှတ် (၆၈/၁-ခ)၊ ဦးမောင်မောင်ခြံလမ်း (၁၀) ရပ်ကွက်၊ လှိုင် မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

**အသိသက်သေများ**

| | |
|---|---|
| လက်မှတ် | ________________ |
| အမည် | ________________ |
| မှတ်ပုံတင်အမှတ် | ________________ |
| လိပ်စာ | ________________ |
| | ________________ |

| | |
|---|---|
| လက်မှတ် | ________________ |
| အမည် | ________________ |
| မှတ်ပုံတင်အမှတ် | ________________ |
| လိပ်စာ | ________________ |
| | ________________ |

မန္တလေးတိုင်းဒေသကြီး၊ ချမ်းမြသာစည်မြို့နယ်၊
မြို့သစ်(၁)ရပ်ကွက်၊ ကွင်းအမှတ် (မ-၂၃)ရှိ
မြေ (၀. ၁၈၃၆) ဧက အား

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ

ပညာရေးဝန်ဆောင်မှု
လုပ်ငန်းအားဆောင်ရွက်ရန်အတွက်

မြေပိုင်ရှင် ဦးအောင်ဝင်း (၁၂/အစန (နိုင်) ၁၂၆၅၉၁)

နှင့်

ဒေါ်ခင်အေးဝင်း (၁၂/ပဘတ (နိုင်) ၀၀၂၁၉၇)
ဒါရိုက်တာ၊ Scinence and Tech International Myanmar University Co.,Ltd

တို့အကြား

မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)

# မြေငှားရမ်းခြင်းသဘောတူစာချုပ်

ဤမြေငှားရမ်းခြင်း သဘောတူစာချုပ် (နောင်တွင် အငှားစာချုပ်တွင် ခေါ်တွင်စေရမည်)ကို ခုနှစ်၊ ______________လ၊ (        )ရက်နေ့တွင် ________________မြို့၌အောက်ပါအတိုင်း ပြုလုပ်ချုပ်ဆိုကြသည်မှာ

မြေအမည်ပေါက် ပိုင်ဆိုင်သော                                                    တွင်နေထိုင်သည့် အမျိုးသားမှတ်ပုံတင်အမှတ် (၁၂/ပဘတ (နိုင်) ၀၀၂၉၇) ကိုင်ဆောင်သူ ဒေါ်ခင်အေးဝင်း သည်(နောင်တွင် အငှားချထားသူဟုခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် ၎င်းကိုယ်တိုင်နှင့် ၎င်းအမွေဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟုမှတ်ယူရမည်) ကတစ်ဘက်၊

နှင့်

အမှတ် (၄)၊ အခန်းအမှတ်(၇)မြန်မာအင်ဖိုတက်၊လှိုင်မြို့နယ် ရန်ကုန်တိုင်းဒေသကြီးတွင် တည်ရှိသော မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် Science and Tech International Myanmar University Co.Ltd (နောင်တွင် အငှားချထားခြင်းခံရသူဟုခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် ၎င်းကိုယ်တိုင်နှင့် ၎င်းအမွေဆက်ခံသူများ၊ ဥပဒေအရခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူနှင့် တရားဝင် ကိုယ်စားလှယ်များ ပါဝင်သည်ဟုမှတ်ယူရမည်)က  တစ်ဘက်၊ တို့သည်အောက်ပါအတိုင်း စာချုပ် ချုပ်ဆို ကြပါသည်။

<u>အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း။</u>

၁။ အငှားချထားသူသည် နောက်ဆက်တွဲများနှင့် အသေးစိတ်ဖော်ပြထားသော အငှားချထားသည့် **မန္တလေးတိုင်းဒေသကြီး၊ ချမ်းမြသာစည်မြို့နယ်၊ မြို့သစ်(၁)ရပ်ကွက်၊ ကွင်းအမှတ် (မ-၂၃)ရှိ မြေ (၀. ၁၈၃၆)ဧကအား** ဥပဒေ အရ တရားဝင်ပိုင် ဆိုင် ခွင့်ရှိသူဖြစ်ကြောင်း အာမခံပါသည်။

၂။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အား ပြည့်စုံ သူဖြစ်ကြောင်းအာမခံပါသည်။

၃။ အငှားချထားသူ နှင့် အငှားချထားခြင်းခံရသူတို့သည် စာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာ ရှိကြသူများဖြစ်ကြောင်း အသီးသီးအာမခံပါသည်။

<u>အငှားချထားသည့် မြေတည်နေရာနှင့် ငှားရမ်းသက်တမ်း။</u>

၄။ အငှားချထားသည့် မြေတည်နေရာနှင့် ငှားရမ်းသက်တမ်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(၁) မြေတည်နေရာ မန္တလေးတိုင်းဒေသကြီး၊ ချမ်းမြသာစည်မြို့နယ်၊ မြို့သစ်(၁)ရပ်ကွက်၊ ကွင်းအမှတ် (မ-၂၃)ရှိ မြေ (၀. ၁၈၃၆)ဧက ဖြစ်ပြီးမြေပုံနှင့် ပိုင်ဆိုင်မှု အထောက်အထားကို ပူးတွဲတင်ပြထားပါသည်။

(၂) ငှားရမ်းခြင်းသက်တမ်း ကနဦး (နှစ် - ၃၀) နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် တစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် တစ်ဆက်စပ်တည်းသက်တမ်း (နှစ်) ကြိမ်အထိ တိုးမြှင့်ခွင့်။

(၃) ဆောင်ရွက်ရမည့်လုပ်ငန်းများ ပညာရေးဝန်ဆောင်မှုလုပ်ငန်း

(၄) ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာငွေကျပ်သန်း ________________နှင့် နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ ________________ သန်း။

## ငှားရမ်းခနှုန်းထားနှင့် ငွေပေးချေခြင်းနည်းလမ်း။

၅။ အငှားချထားခြင်းခံရသူသည် အပိုဒ် (၄) ပါ မြေ (၀. ၁၈၃၆) ဧက (၇၄၃. ၀၀ - စတုရန်းမီတာ) အတွက် ငှားရမ်းခကို အောက်ပါအတိုင်း ပေးဆောင်ရပါမည်။

(က) နှစ်စဉ်မြေငှားရမ်းခကို တစ်နှစ်လျှင် တစ်စတုရန်းမီတာလျှင် ကျပ်(၄,၀၀၀. ၀၀) နှုန်းဖြင့် စုစုပေါင်း (၀. ၁၈၃၆) ဧက (၇၄၃. ၀၀ - စတုရန်းမီတာ) အတွက် တစ်နှစ် (ကျပ် ၂,၉၇၂,၀၀၀. ၅၀) လျှင် (ကျပ်သိန်း နှစ်ဆယ့်ကိုးသိန်း ခုနစ်သောင်းနှစ်ထောင် တိတိ) ပေးချေရန် သဘောတူပါသည်။

(ခ) နှစ်စဉ်မြေငှားရမ်းကိုသက်ဆိုင်ရာနှစ်၏ ပထမ (၁၀) ရက်အတွင်းပေးချေရန်ဖြစ်ပြီး ကျော်လွန်သည့် တစ်ရက်လျှင်ပေးချေရမည့်ငွေ၏ (၁၀ ရာခိုင်နှုန်း) နှင့် ညီမျှသောငွေကို ဒဏ်ကြေးအဖြစ် အငှားချထားခြင်း ခံရသူက ပေးဆောင်ရမည်။

(ဂ) မြေငှားရမ်းခကို (၅) နှစ် (၁) တစ်ကြိမ်၊ နှစ်ဖက်ပြန်လည် ညှိနှိုင်း၊ သုံးသပ်ရမည်။ အကယ်၍ငှားရမ်းခ ထပ်မံတိုးမြှင့်မည့်ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ (၅%) ထက်မကျော်လွန်စေရ။

## အငှားချထားခြင်းခံရသူ၏တာဝန်နှင့် အခွင့်အရေးများ

၆။ အငှားချထားခြင်းခံရသူသည် အောက်ပါစည်းကမ်းများအား လိုက်နာဆောင်ရွက်ရမည် ဖြစ်ပါသည်။

(က) အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားပြီး၊ အငှားချထားသူက သဘောတူကာ မြန်မာနိုင်ငံရင်းနှီးထံမှ ခွင့်ပြုချက်ရရှိသည့် စာချုပ်ပါလုပ်ငန်းများသာ ဆောင်ရွက်ခွင့်ရှိပြီး ပြောင်းလဲပြင်ဆင်ဆောက်လုပ်လိုပါက အငှားချထားသူ၏ သဘောတူညီချက်ဖြင့် မြန်မာနိုင်ငံ ရင်းနှီးထံမှ ခွင့်ပြုချက်ရရှိပြီးမှသာ ပြောင်းလဲပြင်ဆင် ဆောင်ရွက်ခွင့်ရှိသည်။

(ခ) အငှားချထားခြင်းခံရသူသည် အငှားချထားစဉ်ကာလအတွင်း ယင်းမြေ၏လုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ၊ တစ်စိတ်တဒေသကိုဖြစ်စေ ထပ်ဆင့်အငှားချထားခြင်း၊ ထုခွဲရောင်းချခြင်း၊ တနည်းနည်းဖြင့် တပ်ဆင့်လွှဲပြောင်းခြင်းကို အငှားချထားသူ၏ သဘောတူညီချက် မရရှိဘဲ မပြုလုပ်ရ။

(ဂ) ငှားရမ်းသည့်အချိန်ကာလအတွင်း မြေပေါ်တွင်တည်ဆောက်မည့် အဆောက်အဦများအတွက် မီးအာမခံနှင့် အခြားလိုအပ်သောအာမခံများကို မြန်မာ့အာမခံဥပဒေအရထားရှိရန်၊ အငှားချထားခြင်းခံရသူက တာဝန်ယူရမည်။

(ဃ) အငှားချထားခြင်းကိစ္စနှင့်စပ်လျဉ်း၍ မြေခွန်မှအပ အခြားစည်ပင်သာယာခွန် အပါအဝင် လုပ်ငန်းဆောင်ရွက်ရမှုနှင့် သက်ဆိုင်သော အခွန်အခအားလုံးကို အချိန်မှန် မှန်ပေးသွင်းရမည်။

(င) အငှားချထားခြင်းခံရသူက လုပ်ငန်းဆောင်ရွက်မှုဆိုင်ရာ ဝင်ငွေစာရင်းအင်းများကို စနစ်တကျထားရှိရမည်။

(စ) နိုင်ငံတော်မှချမှတ်ထားသော မူဝါဒများကိုလိုက်နာ၍ တရားဥပဒေနှင့်ငြိစွန်းသော လုပ်ငန်းရပ်များအား လုပ်ဆောင်ခြင်းမှ ဆောင်ကြဉ်ရမည်။

(ဆ) မြေငှားစာချုပ်ကို စာချုပ်စာတမ်းမှတ်ပုံတင်ဥပဒေနှင့် တံဆိပ်ခေါင်းခွန်ဥပဒေတို့အရ မှတ်ပုံတင်ရန်ကျသင့်သည့်တံဆိပ်ခေါင်းခွန်နှင့် အခကြေးငွေများကျခံဆောင်ရွက်ရမည်။

## အငှားချထားသူ၏တာဝန်များ။

၇။ အငှားချထားသူသည် အောက်ပါစည်းကမ်းများအား လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်။

(က) အငှားချထားသူသည် ငှားရမ်းသည့်မြေခွန်ကိုဆောင်ရွက်ရမည်။

(ခ) အငှားချထားသူသည် စာချုပ်ပါရည်ရွယ်ချက်အတွက် အငှားချထားသူလိုအပ်သော ခွင့်ပြုချက်များအားရရှိရေးအတွက် လိုအပ်သည့် ကူညီထောက်ပံ့မှုများကို ပေးရမည်။

(ဂ) အငှားချထားခြင်းခံရသူအနေဖြင့် အငှားချထားစဉ်ကာလအတွင်း မြေကိုငြိမ်းချမ်းစွာနှင့် အေးဆေးစွာအသုံးပြုခွင့်ပေးရမည်။

## မြေနှင့်အဆောက်အဦ လွှဲပြောင်းပေးအပ်ခြင်း။

၈။ ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းသက်တမ်း ကုန်ဆုံးသည့်အခါ (သို့မဟုတ်) စာချုပ်ရပ်စဲသည့် အခါ အငှားချထားခြင်းခံရသူက အငှားချထားသည့်မြေနှင့် ယင်းမြေပေါ်ရှိ အငှားချထားခြင်းခံရသူမှ စိုက်ပျိုးပေးထားသော အပင်များ၊ ဆောက်လုပ်ထားသောအဆောက်အဦများအားလုံးအား မည်သည့်အဖိုးစားနားမျှ မပါရှိဘဲ အငှားချထားသူသို့ ကောင်းမွန်သော အနေအထားအတိုင်း ပြန်လည်လွှဲပြောင်းပေးအပ်ခြင်းပြုရမည်။

သို့ရာတွင် မြေနှင့်အဆောက်အဦးပေါ်တွင် အငှားချထားခြင်းခံရသူမှ ဆောက်လုပ်ခဲ့သည့် အဆောက်အဦတွင် တပ်ဆင်ထားသည့်ပစ္စည်းများ (Fixture) မှအပ ကျန်ရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများအားလုံးကို အငှားချထားခြင်းခံရသူမှ ယူဆောင်သွားခြင်းပြုနိုင်သည်။

<u>စာချုပ်သက်တမ်းတိုးခြင်း။</u>

၉။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦးသက်တမ်း မကုန်ဆုံးမီအနည်းဆုံး (၃) လ ကြိုတင်၍ အငှားချထားသူသို့စာဖြင့် အကြောင်းကြားတင်ပြရမည်။ ကနဦးနှစ် (၃၀) နှစ် ငှားရမ်းပြီး နှစ်ဖက်သဘောတူညီရရှိပြီးပါက တစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် သက်တမ်း (၂) ကြိမ် အထိ စာချုပ်သက်တမ်း တိုးမြှင့်နိုင်သည်။ သက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက် ရရှိမှသာ အတည်ဖြစ်စေရမည်။

<u>စာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်။</u>

၁၀။ ဤစာချုပ်သည် အငှားချထားသူနှင့် အငှားထားခြင်းခံရသူတို့ တရားဝင်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

<u>အငြင်းပွားမှုဖြေရှင်းခြင်း။</u>

၁၁။ ဤမြေငှားစာချုပ်မှ အငြင်းပွားမှုပေါ်လာပါက ထိုအငြင်းပွားမှုကို နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းစွာညှိနှိုင်းဖြေရှင်းကြရမည်။ ဤကဲ့သို့ညှိနှိုင်းဖြေရှင်း၍မရပါက မြန်မာနိုင်ငံ အငြင်းပွားမှုဥပဒေ (၂၀၁၆) နှင့်အညီ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏အဆုံးအဖြတ်ကို ခံယူရမည်။

<u>စာချုပ်ရပ်စဲခြင်း။</u>

၁၂။ ဤစာချုပ်ကို ချုပ်ဆိုသူများသည် အောက်ဖော်ပြပါ အကြောင်းအချင်းရာ တစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင် စာချုပ်ကိုရပ်စဲခွင့်ရှိစေရမည်။

(က) ပဋိညာဉ်စာချုပ်ပါ အဓိကတာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က ဆောင်ရွက်ရန်ပျက်ကွက်ခြင်း။

(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်သည် တစ်ဆက်တည်း (၆)လ ကြာမြင့်ခြင်း။

(ဂ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း။

(ဃ) နှစ်ဖက်သဘောတူ စာချုပ်ရပ်စဲခြင်း။

(င) ဤစာချုပ်ချုပ်ဆိုသူများ၏ လုပ်ငန်းရပ်စဲလိုခြင်း စာဖြင့်ရေးသားတင်ပြချက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးနောက်မှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

(စ) အထက်ဖော်ပြပါအကြောင်းရာများကြောင့် စာချုပ်ရပ်စဲသည့်အခါ စာချုပ်ရပ်စဲပြီး နောက် (၃)လအတွင်း မြေနှင့်တကွ မြေပေါ်ရှိအဆောက်အဦ၊ တပ်ဆင်ထားသော ပစ္စည်းများအပါ အဝင် အားလုံးတို့ကို (ရွှေ့ပြောင်းနိုင်သောပစ္စည်းမှ လွဲ၍) အငှား ချထားခြင်းခံရသူက အငှားချ ထားသူတို့အဖိုးစားနားမဲ့ဖြင့် ပြန်လည်ပေးအပ်ရမည်။

<u>စာချုပ်ပြင်ဆင်ခြင်း။</u>

၁၃။ လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေများ (သို့မဟုတ်) စည်းကမ်းချက်များသည် ဤသဘောတူစာချုပ် စည်းကမ်းချက်များနှင့် ကိုက်ညီမှုမရှိဘဲ ပြင်ဆင်၊ ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ကို နှစ်ဦးသဘောတူစာဖြင့် ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုသို့ပြင် ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်က သဘောတူမှသာလျှင် အတည်ဖြစ်စေရမည်။

<u>ဓါတ်သတ္တုအရင်းမြစ်များနှင့် ရတနာများ။</u>

၁၄။ ဤစာချုပ်၏ သက်တမ်းကာလအတွင်း ငှားရမ်းထားသောမြေ၏ မြေပေါ်မြေအောက်အတွင်းမှ မမျှော် လင့်ဘဲ ဓါတ်သတ္တုအရင်းမြစ်များ၊ ကျောက်မျက်ရတနာများနှင့် သဘာဝသယံဇာတများ၊ ရှေးဟောင်းပစ္စည်းများ အစရှိသည်တို့ကို တွေ့ရှိလျှင် သက်ဆိုင်ရာ မြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ ချက်ခြင်းအကြောင်းကြား၊ တင်ပြပေးရမည်။

<u>မလွန်ဆန်နိုင်သောဖြစ်ရပ်များ။</u>

၁၅။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျှောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေ စိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက် က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များ၊ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။ ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ်များ ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်များဖြစ်ပေါ်သည့် အချိန်မှ (၁၀) ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ခြင်းစာဖြင့်ရေးသားအကြောင်း ကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး မြေအသုံးပြုခွင့် နှင့်

တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

ဝန်ထမ်းများခန့်ထားခြင်း။

၁၆။ အငှားချထားခြင်းခံရသူသည် လိုအပ်သောဝန်ထမ်းများကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံဥပဒေများနှင့် အညီခန့်ထားပြီး၊ ယင်းတို့၏ လစာများ၊ အခကြေးငွေများ၊ ခရီးစရိတ်များ၊ အခွင့်အရေးများကို ဥပဒေပြဋ္ဌာန်းချက်များနှင့် အညီခွင့်ပြုသွားရမည်။ နိုင်ငံခြားသားဝန်ထမ်းများကို ခန့်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ကို ကြိုတင်ရယူရမည်။ နိုင်ငံခြားသားဝန်ထမ်းများ၊ ယင်းတို့၏မိသားစုများသည် မြန်မာနိုင်ငံတွင်နေထိုင်စဉ်မြန်မာနိုင်ငံ၏ ဥပဒေများကို လေးစားလိုက်နာရန် နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် အငှားချထားခြင်းခံရသူမှ တာဝန်ယူရမည်။

ကင်းလွတ်ခွင့်နှင့် လက်သာခွင့်များ။

၁၇။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်များ၊ အကောက်အခွန်ကင်းလွတ်ခွင့်များနှင့် အခြားသက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခံစားခွင့်ရရှိစေရန် အငှားချထားသူက ကူညီဆောင်ရွက်ပေးရမည်။

ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း။

၁၈။ အငှားချထားခြင်းခံရသူသည် စွန့်ပစ်ပစ္စည်းများကို စနစ်တကျစွန့်ပစ်ရန်၊ ရေဆိုးများသန့်စင်စေရန် စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို အစီအမံပြုလိုက်ထားရမည်။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

စာပေးစာယူပြုလုပ်ရန်ကိစ္စ။

၁၉။ စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာ (သို့မဟုတ်) အင်္ဂလိပ်ဘာသာဖြင့် ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့်ပို့ခြင်း၊ အီးမေးလ်၊ ဖက်စ်ဖြင့်ပို့ခြင်းတို့ကို အသုံးပြု၍ အောက်ပါလိပ်စာအတိုင်း အချင်းချင်းဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်းအသိပေးအကြောင်းကြားရမည်။

(က) ဦးအောင်ဝင်း

---------------------------------------------------------------------------------

(ခ) ဒေါ်ခင်အေးဝင်း

ဒါရိုက်တာ၊ Science and Tech International Myanmar University Co.,Ltd.

အမှတ် (၃၆/အေ)၊ ပြည်လမ်း၊ (၇)မိုင်ခွဲ၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

<u>မြေသို့ပြန်လည်ဝင်ရောက်ခွင့်။</u>

၂၀။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် အငှားချထားသူက ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် အငှားချထားခြင်းခံရသူသည် အကြောင်းကြားစာပို့ပြီးနောက် (၁၄) ရက်အတွင်းလိုက်နာမှု မရှိပါက အငှားချထားခြင်းခံရသူသည် အငှားချထားသည် မြေနှင့် အဆောက်အဦများကို ပြန်လည်ဝင်ရောက် လက်ရောက်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရယူထံမှ ရရန်ရှိသော ငှားရမ်းခ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

<u>အာမခံထားခြင်း။</u>

၁။ အငှားချထားခြင်းခံရသူသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ မြန်မာ့အာမခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုအပ်သော အမျိုးအစားအားလုံး အာမခံထားရမည်။

<u>အထွေထွေ။</u>

၂၂။ ဤစာချုပ်တွင်ပါရှိသည့် မြေပုံ၊ မြေရာဇဝင်စာရွက်စာတမ်း၊ အဆောက်အဦပုံစံများ၊ ထောကအထားများသည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်ပါသည်။

၂၃။ စာချုပ်ဝင်အဖွဲ့အစည်းတစ်ခုက ဤစာချုပ်ပါ အခွင့်အရေး၊ အာဏာသို့မဟုတ် အလျော်ဒဏ်ခံခွင့်တစ်ရပ်ကို မကျင့်သုံးခြင်းသည် အဆိုပါသို့မဟုတ် အခြားအခွင့်အရေး၊ အာဏာသို့မဟုတ် အလျော်ဒဏ်ခံခွင့်တစ်ရပ်ကို စွန့်လွှတ်ပြီးဖြစ်သည်ဟုမမှတ်ယူရ။

လက်မှတ်ရေးထိုးခြင်း။

၂၄။ အထက်စာချုပ်ပါအချက်အလက်များကို "အငှားချထားသူ" နှင့် "အငှားယူခြင်းခံရသူ" တို့မှ သေချာစွာ ဖတ်ရှုနားလည်သပေါက်လျက် နှစ်ဦးနှစ်ဖက် သဘောတူလက်ခံပါသဖြင့် မိမိတို့၏ လွတ်လပ်သောစိတ်ဆန္ဒနှင့်အညီ အောက်ပါအသိသက်သေများရှေ့မှောက်တွင် ၂၀ ခုနှစ်၊ လ၊ ( )ရက်နေ့၌ သဘောတူလက်မှတ်ရေးထိုးကြပါသည်။

| အငှားထားသူ | | အငှားချထားခြင်းခံရသူ | |
|---|---|---|---|
| ကိုယ်စား | | Science and Tech International Myanmar University Co.,Ltd. ကိုယ်စား | |
| လက်မှတ် | | လက်မှတ် | |
| အမည် | ဦးအောင်ဝင်း | အမည် | ဒေါ်ခင်အေးဝင်း |
| မှတ်ပုံတင်အမှတ် | (၁၂/အစန (နိုင်)၁၂၆၅၉၁) | မှတ်ပုံတင်အမှတ် | (၁၂/ပဘတ(နိုင်)၀၀၂၁၉၇) |
| လိပ်စာ | | လိပ်စာ | အမှတ် (၃၆/အေ)၊ ပြည်လမ်း၊ (၇)မိုင်ခွဲ၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

အသိသက်သေများ

| | | | |
|---|---|---|---|
| လက်မှတ် | | လက်မှတ် | |
| အမည် | | အမည် | |
| မှတ်ပုံတင်အမှတ် | | မှတ်ပုံတင်အမှတ် | |
| လိပ်စာ | | လိပ်စာ | |

**Science And Tech International Myanmar University Co., Ltd.**

# Building Structure and Conceptual Designs

**For**

**Insein STI University and Mandalay STI University**




1 SIXTH FLOOR

3/32" = 1'- 0"




1 THIRD/FOURTH/FIFTH FLOOR
3/32" = 1'- 0"




## 1 FIRST FLOOR

3/32" = 1'- 0"




1 GROUND FLOOR

3/32" = 1'- 0"




1 GROUND FLOOR
3/32" = 1'- 0"

မန္တလေးတိုင်းဒေသကြီးအစိုးရ
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန
(ဦးပိုင်တစ်ခုၡ မြေရာဇဝင်)

ချမ်းမြသာစည်မြို့နယ်  ရပ်ကွက်အမည် မြို့ ၁၁၆ (၁)  ကွင်း/အကွက်အမှတ် မ-ပ၄

| အခွန်စည်းကြပ်ခံရသူ/ပိုင်ရှင်/ဂရန်ရှင်/အငှားဂရန်ရှင်အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်းအစား | ဧရိယာ | | အခွန်တော်သင့်ငွေ (ခိုင်ကြေးပါ) | မည်ကဲ့သို့ပြောင်းလဲသည့်ညွှန်ပြချက် | မှတ်ချက် |
|---|---|---|---|---|---|---|---|
| | | | ဧက | ဒသမ | | | |
| အစိုးရ | A | A | ၀. | ၁၈၃၆ | | - | |
| ဦးအောင်ဝင်း | L | L | ၀. | ၁၈၃၆ | | RP.No ၁၀၇၇၁ / ၉၉-၉၈ (၁၄၀၇) အရ ၂၉.၉.၉၄ / ၂၈.၉.၂၀၁၄ အထိ | |

၁၊ လျှောက်ထားသူအမည် - ဦးအောင်ဝင်း
၂။ လျှောက်လွှာတင်သည့်နေ့စွဲ - ၁၁.၁၂.၂၀၁၇
၃။ လျှောက်လွှာအမှတ် - ၄၁၀၉
၄။ လျှောက်သူသို့လက်ခံပေးသည့်နေ့စွဲ -
၅၊ ရေးကူးပေးသည့်အကြောင်းအရာ - [illegible]
(ဖော်ပြသည့်အကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

၂၀၁၇ / ၁၈ ခုနှစ်၊ မြေပုံနှင့် မှတ်ပုံတင်စာရင်းတွင်ပါရှိသည့်အတိုင်း အမှန်လက်ခံရေးကူးကြောင်း သက်သေခံလက်မှတ်ရေးထိုးပါသည်။

ရေးကူးသူ
၁၄.၁၂.၁၇
မြေတိုင်း ( ၄ )
မြေတိုင်း(၄)(မြို့/မြေ)

တိုက်ဆိုင်စစ်ဆေးပြီးမှန်ကန်ပါသည်။
၁၄.၁၂.၂၀၁၇
မြို့နယ်တာဝန်ခံ
မြို့နယ်တာဝန်ခံ(မြို့/မြေ)စစ်ဆေးသူ
အတည်ပြုသည်။
ဌာနမှူး(မြို့/မြေ)အတည်ပြုသူ

စည်ပင်သာယာရေးကော်မတီ

ရန်ကုန်မြို့တော်

*

ဦးအောင်ဝင်း

၁၂/ဗဟန(နိုင်)၁၂၆၅၉၁

ဦးကျော်ဇေယျ

၁၂/ဗဟန(နိုင်)၁၃၅၀၃၅

ဒေါ်မိမိကြည်

၁၂/ဗဟန(နိုင်)၁၂၅၄၄၃

| | | | |
|---|---|---|---|
| အမည် | * | မြို့နယ် | ဗဟန်း |
| နိုင်ငံသား/အမျိုးသား မှတ်ပုံတင်အမှတ် | * | မြေတိုင်းရပ်ကွက် | ၆၁(၁၄၊၁၅၊၁၆) |
| | | လူနေရပ်ကွက်အမှတ် | - |
| မြေငှားစာချုပ်အမှတ် | ဗဟ-၈၈၊၂၀၁၆ | မြေကွက်အမှတ် | ၃၄၄/ဗ |
| အမှုတွဲအမှတ်/နေ့စွဲ | ဗဟ/ဂဂ(မြေ)-၂၀၁၆၊၁၆၈၈၁၊၁၆<br>၂.၉.၁၆ | မြေကွက်လိပ်စာ | အမှတ်-၆၀၅၊ မဟာသုခိတာရာမ ကြို့ကုန်း အာရှဂေဟာ ဗဟန်း |

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည် -

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်သည့်နေ့ရက်တွင် သတ်မှတ်သည့်နည်းလမ်းအတိုင်း မြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌ လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း၊ အဆိုပါ နှစ်ပေါင်း ( ၆၀ ) ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ၊ စည်းကြပ်လတ္တံ့ဖြစ်သော အခွန်အတုပ်အားလုံးကို ပေးဆောင်ရမည်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ( ၆ ) လအတွင်း စတင်ဆောက်လုပ်၍ အဆိုပါမြေကွက်ပေါ်တွင် ကောင်းမွန်ခိုင်ခံ့သော လူနေအိမ်ကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ အင်ဂျင်နီယာဌာန (အဆောက်အအုံ) မှ သတ်မှတ်ခွင့်ပြုသည့် ပုံစံအတိုင်း ရန်ကုန်မြို့တော်စည်ပင်သာယာရေးဥပဒေနှင့်အညီ ပြီးစီးအောင် ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ် စသည်တို့ကို အဆိုပါနှစ်ပေါင်း ( ၆၀ ) ကာလအပိုင်းအခြားအတွင်းပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက် တည်ရှိသောရပ်ကွက်၌ သက်ဆိုင်ရာ ဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်များနှင့် ရေပိုက်များချထားလျှင် ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့် တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ် ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) အဆိုပါမြေကွက်ပေါ်၌ အဆောက်အအုံများ တည်ဆောက်ရာတွင် ဒေသန္တရအာဏာပိုင် (သို့မဟုတ်) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ အင်ဂျင်နီယာဌာန (အဆောက်အအုံ) ၏ ကြိုတင်ခွင့်ပြုချက် ရယူရန်။

(င) အငှားချထားသူ၏ စာဖြင့်သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ နှစ်ပေါင်း ( ၆၀ ) ကာလ အပိုင်းအခြားအတွင်း အဆိုပါမြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက်မှတပါး အခြားကိစ္စအတွက် အသုံးမပြုရန်နှင့် အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်သည့်လူနေအိမ်ကို၊ လူနေအိမ်အဖြစ်မှတပါး အခြားနည်းအသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်အပြင် ၎င်းမြေ၏ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများ မပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့် စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံသို့ဖြစ်စေ၊ နှစ်ပေါင်း ( ၆၀ ) ကာလအပိုင်းအခြားတွင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန၊ ဌာနမှူး၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ပိုင်းသင့်လျော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်း ( ၆၀ ) အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါ မြေကွက် တည်ရှိသည့် အဆောက်အအုံနှင့် ယင်းအဆောက်အအုံတွင် ပါဝင်တည်ဆောက်ထားသော ပစ္စည်းများ မပါဝင်စေဘဲ အဆိုပါမြေကွက်ကို အငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်၊ သို့ရာတွင် အငှားချထားသူက အပိုဒ် ( ၂ ) အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံနှင့် ယင်း၏အဆောက်အအုံတွင် ပါဝင်တည်ဆောက်ထားသော ပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာပေးအပ်ရန်။

(ခ) အပိုဒ် ( ၂ ) အရ ဤစာချုပ်ကို ပယ်ဖျက်ပြီး မဟုတ်လျှင်သော်လည်းကောင်း၊ အငှားစာချုပ်ရသူက နှစ်ပေါင်း ( ၆၀ ) ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကို ပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါ မိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်သော်လည်းကောင်း၊ အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသော အဆောက်အအုံများ၊ အဆောက်အအုံများ နှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြား မကုန်မီ ( ၆ ) လအတွင်း ဖျက်သိမ်း သယ်ယူခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့သယ်ယူခြင်းကြောင့် အဆိုပါမြေကွက် ပျက်စီးယိုယွင်းခဲ့လျှင် ထိုမြေကွက်ကို မူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ....၂၀၁၃.......ခုနှစ်၊ .....ဩဂုတ်............လ၊ ....၁၆........ရက်နေ့မှစ၍ ပထမ ( ၁၅ ) နှစ် ကုန်ဆုံးသောအခါ ဒုတိယ ( ၁၅ ) နှစ်အတွက် ရန်ကုန်မြို့တော်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄ အရ စည်းကြပ်သော သုံးလပါတ် မြေငှားခကိုလည်းကောင်း၊ ဒုတိယ ( ၁၅ ) နှစ်ကုန်ဆုံးသောအခါ တတိယ ( ၁၅ ) နှစ် အတွက် အဆိုပါ မြေနည်းဥပဒေ ၂၄ အရ စည်းကြပ်သော သုံးလပါတ်မြေငှားခကိုလည်းကောင်း၊ တတိယ ( ၁၅ ) နှစ် ကုန်ဆုံးသောအခါ စတုတ္ထ ( ၁၅ ) နှစ်အတွက် အဆိုပါ မြေနည်းဥပဒေ ၂၄ အရ စည်းကြပ်သော သုံးလပါတ် မြေငှားခကိုလည်းကောင်း၊ အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်၊ အကယ်၍ အထက်ပါ နည်းဥပဒေအတိုင်း မြေငှားခကို ပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင် ပြဋ္ဌာန်းထားသည့် နည်းဥပဒေအတိုင်း မြေငှားခကို ပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲ သုံးလပါတ် မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါ အခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင် ပါရှိစေကာမူ ဤစာချုပ်ချုပ်ဆိုသည့် နေ့မှစ၍ ပထမနှစ်ပေါင်း ( ၃၀ ) အတွင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သော မြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့်လည်းကောင်း၊ ပြုလုပ်ထားသော ပဋိညာဉ်ခံချက်များကို မပျက်မကွက် လိုက်နာဆောင်ရွက်ခဲ့သောကြောင့်လည်းကောင်း၊ သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သော သုံးလပါတ် မြေငှားခဖြင့် နောက်ထပ် နှစ်ပေါင်း ( ၃၀ ) အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်းမြေငှားစာချုပ်အသစ် ချုပ်ဆိုရန်သဘောတူကြောင်းကို အဆိုပါ ပထမနှစ်ပေါင်း ( ၃၀ ) မပြည့်မီ အနည်းဆုံး ( ၆ ) လ ကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့်အကြောင်းကြားရမည်။ အကြောင်းကြားစာနှင့်အတူ ပထမ မြေငှားစာချုပ်ကို ပေးအပ်လျှင် ကိုအကြောင်းကြားစာ ရရှိသည့်နေ့မှ ( ၆ ) လအတွင်း နောက်နှစ်ပေါင်း ( ၃၀ ) အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့် ဖြစ်နိုင်သမျှတူညီသည့် ပဋိညာဉ်ခံချက်များပါရှိသည့် မြေငှားစာချုပ်အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူက ထုတ်ပေးရန်၊ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပါတ်မြေငှားခကို အငှားစာချုပ်ရသူက ပေးဆောင်ရန်။

ဤစာချုပ်ပါ စကားရပ်များကို သိရှိနားလည်ကြပြီးဖြစ်သဖြင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန၊ ဌာနမှူး နှင့် ဒုတိယဌာနမှူး တို့ရှေ့တွင် ဤကော်မတီ တံဆိပ်ကို ခပ်နှိပ်၍ အဆိုပါ ဌာနမှူး နှင့် အဆိုပါ ဦးအောင်ဝင်း၊ ဦးကျော်ဇော်ယု၊ ဒေါ်ခင်မြင့်............. သည် ဤစာချုပ်ကို အထက်၌ ဖော်ပြခဲ့သည့် နေ့ရက်တွင် လက်မှတ်ရေးထိုးကြပါသည်။

